# Kappa Int'l Ltd.

**Nawarat Condo ,Sa Mon street ,building no 22/24 ,Dagon TSP, YGN**

Phone : 01376568 Fax : 377830

E-mail : kappamyanmar@gmail.com

## လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများသက်သာချောင်ချိရေး အစီအစဉ်

"ကတ်ပါ အင်တာနေရှင်နယ် လီမိတက်" (Kappa International Limited)သည် ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ အင်းလေးကန်တောရိုင်း တိရစ္ဆာန်ဘေးမဲ့တောရှိ၊ မြေ(၂၁. ၇၇)ဧကတွင် Villa Inle Resort & Spa လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရာတွင် လုပ်သားသက်သာချောင်ချိရေးအစီအစဉ်ကို အောက်ပါအတိုင်း စီစဉ်ထားပါသည်။

၁။ ဝန်ထမ်းများကို အကြို/ အပို့ မော်တော်ယဉ်များလည်းစီစဉ်ပေးထားမည်ဖြစ်ပါသည်။

၂။ Villa Inle Resort & Spa များ၏ ဝန်ထမ်း ထမင်းစားဆောင်ကိုလည်း တည်ဆောက်ပြီး ထမင်းစားခုံ၊ ကုလားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးပါမည်။

၃။ ရေချိုးခန်းနှင့် အိမ်သာကို အမျိုးသား၊ အမျိုးသမီးခွဲခြားလျှက် အလုံအလောက် တည်ဆောက်ထားရှိမည်ဖြစ်ပါသည်။

၄။ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများထားရှိခြင်း၊ ဟိုတယ်ဝန်းကျင်သန့်ရှင်းမှုရှိစေရန် လုပ်ငန်းဆောင်ရွက်ပေးခြင်း၊ ရေနုတ်မြောင်းများကို တည်ဆောက်၍ သန့်ရှင်းစင်ကြယ်မှုရှိစေရန် အစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၅။ Villa Inle Resort & Spa တွင် လေဝင်လေထွက်ကောင်းစေရန် စီမံဆောက်ရွက်ထားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Min Din
Director
Kappa International Ltd.

# Kappa Int'l Ltd.

**Nawarat Condo ,Sa Mon street ,building no 22/24 ,Dagon TSP, YGN**

**Phone :** 01376568 **Fax : 377830**

**E-mail : kappamyanmar@gmail.com**

## <u>အခွန်ငွေပေးဆောင်ရန်နှင့် ပတ်သက်၍ကတိဝန်ခံချက်</u>

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ "ကတ်ပါအင်တာနေရှင်နယ်လီမိတက်" (Kappa International Limited)သည် ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ အင်းလေးကန်တောရိုင်းတိရစ္ဆာန်ဘေးမဲ့တောရှိ၊ မြေ(၂၁. ၇၇)ဧကတွင် Villa Inle Resort & Spa လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရာတွင် ဝန်ထမ်းခန့်ထားရာ၌ တစ်နှစ်လစာငွေကျပ် ၂,၀၀၀,၀၀၀/အထက်ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် နှုန်းထားအတိုင်းဝန်ထမ်းများ၏ လစာမှနုတ်ယူ၍နိုင်ငံတော်သို့ ပေးဆောင်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Moe Din
Director
Kappa International

# Kappa Int'l Ltd.

**Nawarat Condo,,Sa Mon street ,building no 22/24 ,Dagon TSP, YGN**

**Phone :** 01376568 **Fax : 377830**

**E-mail : kappamyanmar@gmail.com**


## <u>ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှုအခြေအနေတင်ပြခြင်း</u>

"ကတ်ပါအင်တာနေရှင်နယ်လီမိတက်" (Kappa International Limited)သည် ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ အင်းလေးကန်တောရိုင်းတိရစ္ဆာန်ဘေးမဲ့တောရှိ မြေ(၂၁. ၇၇) ဧကတွင် Villa Inle Resort & Spa လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရန်အတွင်း သန့်စင်ခန်းများ ထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ Villa Inle Resort & Spa ပတ်ဝန်းကျင်အား သန့်ရှင်းရေး လုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များမရှိအောင် ရေနုတ်မြောင်းများ ကို ရေစီးရေလာကောင်းမွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများကိုအစဉ်ပြု လုပ်မည်ဖြစ်ပါကြောင်းနှင့် ဟိုတယ်မှထွက်ရှိမည့် ရေဆိုးများကို စနစ်တကျစွန့်ပစ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

Villa Inle Resort & Spa ပတ်ဝန်းကျင်တွင် ဆူညံမှုဖြစ်ပေါ်မည်မဟုတ်ပဲ ပတ်ဝန်းကျင် ညစ်ညမ်းမှုကိုလည်း ဖြစ်ပေါ်မည်မဟုတ်ကြောင်းနှင့် Villa Inle Resort & Spa ထွက်ရှိလာသော အမှိုက်များကိုလည်း စနစ်တကျစွန့်ပစ်မည်ဖြစ်ပါကြောင်းနှင့် လုပ်ငန်းမှဖြစ်ပေါ်လာမည့် အနံ့ဆိုး များ ပျောက်ကင်းစေရန် အငွေ့စုပ်သည့် အပင်များစိုက်ပျိုးထားရှိမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြု ပါသည်။

လေးစားစွာဖြင့်

Min Din
Director
Kappa International Ltd.

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၇၀ / နပတ(၄၅၁)

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ၊ မေလ ၂၃ ရက်

အကြောင်းအရာ။ အင်းလေးကန်ဘေးမဲ့တောအတွင်းရှိ မြေငှားရမ်းခြင်းအတွက် နှစ်ရှည်မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)များအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ်ရုံး၏၇-၅-၂၀၁၄ရက်စွဲပါစာအမှတ်၊ ဥယျာဉ်-ဌေ / အင်းလေး(ဟိုတယ်) ၂၈၇၅ / ၂၀၁၄

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင် အင်းလေးကန်ဘေးမဲ့တောအတွင်းရှိ မြေငှားရမ်းခွင့်ရရှိထားသောဟိုတယ်(၁၀)လုံးအား နှစ်ရှည်မြေငှားစာချုပ်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့် ပြုရန်အတွက် AMATA INTERNATIONAL CO.,LTD၊ ASIA GREEN TRAVELS &TOURS CO.,LTD၊ SANCTUM INLE RESORT CO.,LTD၊ THAZIN GARDEN INTERNATIONAL TRADING CO.,LTD၊ KAPPA INTERNATIONAL CO.,LTD၊ ADVENTURE MYANMAR TOURS & INCENTIVES CO.,LTD၊ MINOR MYANMAR CO.,LTD၊ HTOO TRADING CO.,LTD နှင့်ရွှေအင်းသားကုမ္ပဏီလီမိတက်တို့နှင့် ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)များအပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စဖြစ်ပါသည်။

လျှို့ဝှက်

၂။ ရည်ညွှန်းချက်ပါစာတွင် နှစ်ရှည်မြေငှားစာချုပ်ဖြင့် Amata Garden Resort Hotel Inle ကို ငှားရမ်းလုပ်ကိုင်ခွင့်ပြုရန် ဆောင်ရွက်မည့်ကုမ္ပဏီအား United International Group Limited ဟု ဖော်ပြထားပြီး စာချုပ်(မူကြမ်း) တွင် AMATA INTERNATIONAL CO.,LTD နှင့် ချုပ်ဆိုရန်ဖော်ပြထားရာ ကုမ္ပဏီအမည်ကွဲလွဲနေပါသဖြင့် ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။

၃။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း) ၁၀ ရပ်သည် ငှားရမ်းမည့်မြေဧရိယာနှင့် စာချုပ် ချုပ်ဆိုမည့်ကုမ္ပဏီများကွဲပြားခြားနားသော်လည်း စာချုပ် ပုံစံ တစ်မျိုးတည်းရေးသားပြုစုထားသဖြင့် တစ်ပေါင်းတည်းစိစစ်သုံးသပ်အကြံပြုအပ်ပါသည်။

၄။ ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း) ၁၀ရပ် အပေါ် ဥပဒေရှုထောင့်မှ လေ့လာ စိစစ်၍ အောက်ပါအတိုင်းသုံးသပ် အကြံပြုအပ်ပါ သည်-

(က) စာချုပ်(မူကြမ်း)များ၏အပိုဒ် ၁ ရည်ရွယ်ချက်၏အပိုဒ်ခွဲ ၁-၁ နှင့် ၁-၂၊အပိုဒ် ၃ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း၏အပိုဒ်ခွဲ ၃-၁၊အပိုဒ် ၅ အငှားချထားသည့် မြေနှင့် မြေငှားရမ်းခြင်း သက်တမ်းကာလ၏ အပိုဒ်ခွဲ ၅-၁ တို့တွင် နောက်ဆက်တွဲ(က)၊ (ခ)၊ (ဂ) စသည်ဖြင့် ရည်ညွှန်းဖော်ပြထားသော်လည်း စာချုပ် (မူကြမ်း) များ၏ပူးတွဲပါနောက်ဆက်တွဲများတွင် ရည်ညွှန်းအမှတ်စဉ် အက္ခရာများ ဖော်ပြပါရှိခြင်းမရှိပါသဖြင့် ပြန်လည်စိစစ်ဖော်ပြရန်နှင့် စာချုပ်ပါ စည်းကမ်းချက်၌ ကိုက်ညီရန် ဌာနမှတာဝန်ယူစိစစ်ရန်ဖြစ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)များ၏ အပိုဒ် ၁၂ အငှားချထားခြင်းခံရသူ၏တာဝန်ဝတ္တရားများ အပိုဒ်ခွဲ ၁၂-၁ ၊ အပိုဒ်ခွဲငယ်(ဂ) တွင် ပြောင်းလဲပြင်ဆင် ဆောက်လုပ်လိုပါက အငှားချထားသူထံပြန်လည်တင်ပြ၍ အတည်ပြုချက် ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုရမည်ဟုဖော်ပြထားရာ တင်ပြရန်အချိန်ကာလ ကန့်သတ်

ချက်နှင့် မည်ကဲ့သို့တင်ပြရမည်ကိုထည့်သွင်းဖော်ပြရန် သင့် မသင့်ဌာနမှ ပြန်လည်စိစစ်သင့်ပါ သည်၊

(ဂ) ထို့အပြင် စာချုပ်(မူကြမ်း)များ အပိုဒ်ခွဲ ၁၂-၁၊ အပိုဒ်ခွဲငယ်(ဆ)တွင် ဖော်ပြထားသည့် အငှားချထားခြင်းခံရသူမှ အေးဆေးစွာအသုံးပြုခွင့်ရရှိရေးကိစ္စမှာ အငှားချထားသူ၏တာဝန်ဖြစ်သဖြင့် အပိုဒ် ၁၁ အငှားချထားသူ၏ တာဝန်ဝတ္တရားများခေါင်းစဉ်အောက်သို့ ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)များပါ ကွက်လပ်များအား စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(င) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့် အနည်းငယ် ပြင်ဆင်ပေးလိုက်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေ အကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ် များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြု ပါသည်။

၆။ သစ်တောဦးစီးဌာနနှင့် စာချုပ်ချုပ်ဆိုမည့် ကုမ္ပဏီများဖြစ်သော AMATA INTERNATIONAL CO.,LTD၊ ASIA GREEN TRAVELS &TOURS CO.,LTD၊ SANCTUM INLE RESORT CO.,LTD၊ THAZIN GARDEN INTERNATIONAL TRADING CO.,LTD၊ KAPPA INTERNATIONAL CO.,LTD၊ ADVENTURE MYANMAR TOURS & INCENTIVES CO.,LTD၊ MINOR MYANMAR CO.,LTD၊ HTOO TRADING CO.,LTD နှင့်ရွှေအင်းသားကုမ္ပဏီလီမိတက်တို့သည် ဥပဒေအရ

တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီများဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ် ရေးထိုးမည့်သူများသည် တရားဝင်လွှဲအပ်ခြင်းခံရသူများဟုတ် မဟုတ် စသည့်အချက်များနှင့် စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၇။ စာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံး သို့ မိတ္တူ(၃)စောင်စီပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၂/၅/၂၀၁၄

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

( မေသီလင်း ၊ဒုတိယညွှန်ကြားရေးမှူးချုပ် )

ညွှန်ကြားရေးမှူးချုပ်

သစ်တော‌ဦးစီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

သစ်တောဦးစီးဌာန

နှင့်

KAPPA INTERNATIONAL CO.,LTD

တို့၏

# အင်းလေးကန်တောရိုင်းတိရစ္ဆာန်ဘေးမဲ့တော နယ်မြေအတွင်းရှိ

# မြေ(၂၁.၇၇)ဧကအား နှစ်ရှည်မြေငှားရမ်းခြင်း

# နှစ်ဘက် သဘောတူစာချုပ်မူကြမ်း

ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ၊ လ ၊ ( )ရက်

**အပိုဒ်-၂ ရင်းနှီးမြှုပ်နှံမှု**

၂-၁ "အငှားချထားခြင်းခံရသူ"သည် အဆိုပြုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာကျပ်သန်း ၅၀၀၀ (ကျပ်သန်းငါးထောင်တိတိ)ထည့်ဝင်၍ လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။

**အပိုဒ်-၃ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း**

၃-၁ ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုး ချုပ်ဆိုကြသည့် စာချုပ်ဝင်များအနက် "အငှားချထားသူ"သည် ငှားရမ်းမည့် (၂၁.၇၇) ဧကကို တရားဝင်ပိုင်ဆိုင်ကြောင်း နှင့် ၂၀၁၃ ခုနှစ် ၊ဩဂုတ်လ(၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ (၁၇/၂၀၁၃)ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရ လုပ်ထုံးလုပ်နည်းနှင့်အညီ နှစ်ရှည်ငှားရမ်းရန် ခွင့်ပြုမိန့်ရရှိပြီးဖြစ်ပါသည်။ (နောက်ဆက်တွဲ - ဂ)

၃-၂ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ကြောင်း အာမခံပါသည်။ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးရန် ဥပဒေအရ လုပ်ပိုင်ခွင့်ရှိသော အခွင့်အာဏာရှိကြသူများဖြစ်ကြောင်း အသီးသီးကိုယ်စားပြု အာမခံကြပါသည်။

**အပိုဒ်-၄ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၄-၁ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာနအာဏာပိုင် အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ ၊ ခွင့်ပြုမိန့်များရရှိပြီးမှသာ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်။

**အပိုဒ်-၅ အငှားချထားသည့် မြေနှင့် မြေငှားရမ်းခြင်းသက်တမ်းကာလ**

၅-၁ အငှားချထားသည့်မြေတည်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ကိုယ်စား ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနက စီမံခန့်ခွဲပိုင်ခွင့်ရှိသော၊ သဘာဝနယ်မြေတစ်ခုဖြစ်သည့် အင်းလေးကန်တောရိုင်းတိရစ္ဆာန်ဘေးမဲ့တောဟုသတ်မှတ်ထားသောမြေရှိ နောက်ဆက်တွဲ(က)ဖြင့် ဖော်ပြထားသော မြေပုံတွင် အမှတ်အသားပြထားသည့် ဘောင်အတွင်းရှိ မြေဧရိယာ(၂၁.၇၇)ဧက ဖြစ်ပါသည်။

၅-၂ ဤသဘောတူစာချုပ်ပါ မြေငှားရမ်းခြင်းသက်တမ်းကာလမှာ မြေငှားစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး(၅၀)နှစ်ဖြစ်ပြီးတစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့်သက်တမ်း (၂)ကြိမ် တိုးခွင့် ရှိသည်။

၅-၃ အငှားချထားသည့်ကာလတိုးမြှင့်ခြင်းမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

အပိုဒ်-၆- ငှားရမ်းသက်တမ်းကာလတိုးခြင်းနှင့် မှတ်ပုံတင်ခြင်း

၆-၁ ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့် သက်တမ်းကာလမှာ ၂၀၁၄ ခုနှစ်မှ ၂၀၆၄ ခုနှစ်ထိ (၅၀)နှစ်သက်တမ်းဖြစ်ပြီး သက်တမ်းတိုးခြင်းအား(၁၀)နှစ်(၂)ကြိမ် ထပ်မံတိုးခွင့်ရှိပါ သည်။

၆-၂ ဤစာချုပ်ကို စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်ထားရှိရမည် သတ်မှတ်ထားသည့် မှတ်ပုံတင်ကြေးကျသင့်ငွေများကို အငှားချထားခြင်းခံရသူမှ ကျခံရမည် ဖြစ်ပါသည်။

၆-၃ မှတ်ပုံတင်ကြေးပေးဆောင်ရန် အလို့ငှာ ပထမနှစ်ငှားရမ်းကာလဖြစ်သည့် (၁.၄.၂၀၁၄)မှ (၃၁.၃.၂၀၁၅)ထိ တစ်နှစ်လျှင် ကျပ် ၂၀၀၀၀၀(ကျပ်နှစ်သိန်း)နှုန်းဖြင့် သတ်မှတ်ထားသည့် မှတ်ပုံတင်ကြေး ပေးသွင်းပါမည်။

အပိုဒ်-၇ စာချုပ်သက်တမ်း

၇-၁ ဤစာချုပ်သက်တမ်းမှာ စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုသည့် နေ့မှစ၍ ကနဦး(၅၀) နှစ်ဖြစ်သည်။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦးသက်တမ်း မကုန်ဆုံးမီ အနည်းဆုံး(၃)လကြိုတင်၍ စာဖြင့်အကြောင်းကြားတင်ပြရမည်။ ကနဦး (၅၀)နှစ် ငှားရမ်းပြီးနောက်ထပ်သက်တမ်းကာလ တိုးမြှင့်ငှားရမ်းရေးအတွက် နှစ်ဘက် ညှိနှိုင်းဆောင်ရွက်ရမည်။ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင်သို့တင်ပြ၍ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

အပိုဒ်-၈ အကျိုးသက်ရောက်သည့်နေ့

၈-၁ ဤသဘောတူစာချုပ်သည် စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက်တရားဝင် အတည်ပြုလက်မှတ်ရေးထိုး ချုပ်ဆိုသည့်နေ့မှစတင်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

အပိုဒ်-၉ မြေအသုံးချမှုပရီမီယံ

၉-၁ "မြေအငှားချထားခြင်းခံရသူ"သည် မြေအသုံးချမှုအတွက် ပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ကျပ် ၅၀၀၀၀ ( ကျပ်ငါးသောင်းတိတိ ) နှုန်းဖြင့် မြေ(၂၁.၇၇)ဧက အတွက်

ငွေကျပ် ၁၀၈၈၅၀၀(ကျပ်တစ်ဆယ့်သိန်းရှစ်သောင်းရှစ်ထောင်ငါးရာတိတိ) ကို "အငှားချထားသူ"သို့ အောက်ဖော်ပြပါ အတိုင်းပေးသွင်းရမည်။

(က) ပထမအရစ်အဖြစ် စုစုပေါင်းပရီမီယံ၏ ၃၀% ဖြစ်သော ကျပ် ၃၂၆၅၅၀(ကျပ်သုံးသိန်းနှစ်သောင်းခြောက်ထောင်ငါးရာငါးဆယ်တိတိ) ကို သဘောတူစာချုပ်လက်မှတ်ရေးထိုးပြီး ရက်(၃၀)အတွင်း ပေးသွင်းရမည်။

(ခ) ဒုတိယအရစ်အဖြစ် စုစုပေါင်းပရီမီယံ၏ ၃၀% ဖြစ်သောကျပ်၃၂၆၅၅၀ (ကျပ်သုံးသိန်းနှစ်သောင်းခြောက်ထောင်ငါးရာငါးဆယ်တိတိ)ကို ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုပြီး (၆)လအတွင်း ပေးချေရမည်။

(ဂ) တတိယအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၄၀%ဖြစ်သော ကျပ် ၅၃၅၄၀၀ (ငါးသိန်းသုံးသောင်းငါးထောင်လေးရာတိတိ)ကို ဤသဘောတူစာချုပ်ချုပ်ဆိုပြီး (၂၄)လအတွင်း ပေးချေရမည်။

(ဃ) မြေအသုံးချမှုပရီမီယံကြေးပေးသွင်းရာတွင် အငှားချထားသူ၏ နေပြည်တော် ၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်းအမှတ် ၊ MD- 010613 သို့ ပေးသွင်းရမည်။

၉-၂ မြေအသုံးချမှုအတွက် ပရီမီယံကြေးကို သတ်မှတ်ကာလအတွင်းပေးသွင်းရမည်။ အကယ်၍ သတ်မှတ်ကာထက် နောက်ကျပြီးပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေကျပ် ၂၀၀၀(ကျပ်နှစ်ထောင်)နှုန်း ပေးဆောင်ရမည်။

**အပိုဒ်-၁၀ နှစ်စဉ်ငှားရမ်းခပေးချေခြင်း**

၁၀-၁ "အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့် မြေဧရိယာ(၂၁.၇၇)ဧကအတွက် တစ်ဧကလျှင် ၂၀၀၀၀၀ နှုန်းဖြင့်ကျပ် ၄၃၅၄၀၀၀(ကျပ်လေးဆယ့်သုံးသိန်းငါးသောင်းလေးထောင်တိတိ)ကို အငှားချထားသူထံသို့ ဤစာချုပ်ကို နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီးရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ပေးသွင်းရမည်။ နောင်နှစ်များတွင်လည်း နှစ်စဉ်သက်တမ်းမစတင်မီ ရက်ပေါင်း(၆၀)အတွင်းကြိုတင်၍ ပေးသွင်းရမည်။ အကယ်၍ သတ်မှတ်ကာလထက် နောက်ကျပြီးပေးသွင်းပါက တစ်ရက်လျှင်ဒဏ်ကြေးငွေ ကျပ် ၅၀၀၀(ကျပ်ငါးထောင်)နှုန်း ပေးဆောင်ရမည်။

၁၀-၂ မြေငှားရမ်းခကို(၅)နှစ်လျှင်တစ်ကြိမ် ပြန်လည်ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည်ချုပ်ဆိုသည့်အခါ ငှားရမ်းခနှုန်းထားကို ကာလဒေသပေါက်ဈေးနှင့် နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ လက်ရှိစာချုပ်ပါ ငှားရမ်းခ၏ ၁၀%ထက်မပိုသော နှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်မည်ဖြစ်သည်။

## အပိုဒ်-၁၁ အငှားချထားသူ၏ တာဝန်ဝတ္တရားများ

၁၁-၁ အငှားချထားသူသည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(၁) အငှားချထားသည့် မြေအတွက် မြေခွန်ကိုပေးဆောင်ရမည်။

(၂) လိုအပ်သောခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာအဖွဲ့အစည်းများထံမှရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(၃) အငှားချထားခြင်းခံရသူက ဤမြေနှင့်အဆောက်အအုံငှားရမ်းလုပ်ကိုင်ခြင်းအတွက် နိုင်ငံတော်အဖွဲ့အစည်းများသို့ ပေးချေရမည့် အခွန်အခများအားလုံးကို မြန်မာကျပ်ငွေဖြင့်ပေးချေနိုင်ရန်အတွက် အငှားချထားသူက ကူညီဆောင်ရွက်ပေးရမည်။

(၄) အငှားချထားသည့် မြေတွင် အဆောက်အုံများကို ပိုမိုတိုးတက်ကောင်းမွန်စေရေးအတွက်လိုအပ်သော တည်ဆောက်မွမ်းမံပြင်ဆင်မှုများပြုလုပ်နိုင်ရန် အငှားချထားခြင်းခံရသူသို့ ခွင့်ပြုပေးရမည်။

(၅) အငှားချထားခြင်းခံရသူအနေဖြင့် အငှားချထားစဉ်ကာလအတွင်း မြေကို ငြိမ်းချမ်းစွာနှင့် အေးဆေးစွာအသုံးပြုပိုင်ခွင့်ရပြီး အငှားချထားသူ၏ သဘောအရ (သို့မဟုတ်) အငှားချထားသူ၏ ယုံကြည်အပ်နှံသူတို့၏ပါဝင်ပတ်သက်မှု ဝင်ရောက်နှောက်ယှက်မှုမရှိစေရ။

## အပိုဒ်-၁၂ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ

၁၂-၁ "အငှားချထားခြင်းခံရသူ"သည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) အဆိုပါမြေတွင် အခန်း(၅၀)ခန်းပါ နိုင်ငံတကာအဆင့်မီဟိုတယ်ကို ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာငွေကျပ် သန်း(၅၀၀၀)ဖြင့် တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်းကို အငှားချထားခြင်းခံရသူက မိမိစရိတ်ဖြင့် တည်ဆောက်လုပ်ကိုင်ရမည်။

(ခ) အငှားချထားခြင်းခံရသူသည် နိုင်ငံတကာအဆင့်မီ ဟိုတယ်စီမံကိန်းသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ မြေပြုပြင်ကာလ(၆)လနှင့် ဟိုတယ်တည်ဆောက်ရေးကာလ(၁၈)လ ၊ စုစုပေါင်း(၂၄)လအတွင်း ပြီးစီးအောင်တည်ဆောက်ဖွင့်လှစ်ရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားသည့် စာချုပ်ပါအဆောက်အဦးအကွက်ချပုံစံ (Site Plan) အဆောက်အဦးအမျိုးအစားအလိုက်၏ အရေအတွက်နှင့် ပုံစံ (Drawing) များအတိုင်းသာ ဆောက်လုပ်သွားမည်ဖြစ်ပြီး ပြောင်းလဲပြင်

ဆင်ဆောက်လုပ်လိုပါက အငှားချထားသူထံ သို့(၃)လကြိုတင်အကြောင်းကြားရမည်။ အတည်ပြုချက် ရရှိပြီးမှသာ ဆောက်လုပ်ရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်၏ အပိုဒ်(၉)နှင့်အပိုဒ်(၁၀)တွင် ဖော်ပြထား သည့် မြေအသုံးချမှုပရီမီယံ(Land Use Premium)နှင့် နှစ်စဉ်ငှားရမ်းခငွေများ (Annual Land Lease Rental)ကို ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသည့်ကာလများအတွင်း အငှားချထားသူသို့ မပျက်မကွက် ပေးချေရမည်။

(င) ခွင့်ပြုမိန့်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသော မြေနှင့်အဆောက်အအုံများကို စာချုပ်သက်တမ်းကာလအတွင်း ထိုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(စ) ဤသဘောတူစာချုပ်အား တည်ဆဲဥပဒေအရ တံဆိပ်ခေါင်းခွန်၊ ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်မရရှိသေးလျှင် ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ရမည်။

(ဆ) နိုင်ငံတော်က ချမှတ်သောမူဝါဒများကို လိုက်နာ၍ တရားဥပဒေနှင့် ငြိစွန်းသော လုပ်ငန်းများကို လုပ်ဆောင်ခြင်းမှ ရှောင်ကြဉ်ရမည်။

(ဇ) အငှားချထားစဉ်အတွင်း မြေခွန်မှအပ လုပ်ငန်းနှင့်သက်ဆိုင်သော အခြားအခွန်အခများကို သက်ဆိုင်ရာဌာနများသို့ အချိန်မှန်မှန်ပေးဆောင်ရမည်။

(ဈ) ဟိုတယ်နှင့် တည်းခိုခန်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ရရှိရန်အတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ ခွင့်ပြုမိန့်လိုင်စင်ရယူရမည်။

(ည) အငှားချထားခြင်းခံရသူသည် နိုင်ငံတော်နှင့်သက်ဆိုင်ရာဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းကမ်းချက်ကို လိုက်နာရမည့်အပြင် လောင်းကစားခြင်းလုပ်ငန်းနှင့် မြန်မာ့ယဉ်ကျေးမှုနှင့်ဆီလျော်မှုမရှိသည့် ဖျော်ဖြေမှုလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်မှု မရှိရပါ။

**အပိုဒ်-၁၃ အာမခံထားရှိခြင်း**

၁၃-၁ "အငှားချထားခြင်းခံရသူ" သည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများဆောင်ရွက်ရာတွင် တည်ဆောက်မည့်အဆောက်အဦအတွက်မီးအာမခံနှင့် အခြားလုပ်ငန်း လိုအပ်ချက်အရ လိုအပ်သောအာမခံများကိုမြန်မာ့အာမခံဥပဒေနှင့် အညီ ထားရှိရမည်။

**အပိုဒ်-၁၄ ဓာတ်သတ္တု အရင်းအမြစ်များ**

၁၄-၁ ဤသဘောတူစာချုပ်ပါ ငှားရမ်းကာလအတွင်း မမျှော်လင့်ဘဲငှားရမ်းသည့် မြေနှင့် အဆောက်အအုံတည်ရှိရာ မြေပေါ်မြေအောက်မှဓာတ်သတ္တုအရင်းအမြစ်များ ၊ ကျောက်မျက်ရတနာ များ၊ ရှေးဟောင်းယဉ်ကျေးမှုအနုပညာပစ္စည်းများ၊ သဘာဝသမိုင်းနှင့် သိပ္ပံဆိုင်ရာအရေးပါသော အရာဝတ္ထုများ၊ သဘာဝသယံဇာတများကို မမျှော်လင့်ဘဲတွေ့ရှိလျှင် "အငှားချထားခြင်း ခံရသူ" သည် "အငှားချထားသူ" သို့ ချက်ချင်းတင်ပြရမည်။ ထိုပစ္စည်းများကို ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အစိုးရကပိုင်ဆိုင်စေရမည်ဖြစ်ပြီး အငှားချထားခြင်းခံရသူသည် သက်ဆိုင်ရာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ အဖွဲ့အစည်းများသို့လွှဲပြောင်းတင်ပြရမည်။ထို့အပြင်အထက်ပါပစ္စည်းများအား နိုင်ငံတော်အစိုးရက လွတ်လပ်စွာတူးဖော် ရယူပိုင်ခွင့်ရှိစေရမည်။

**အပိုဒ်-၁၅ စာချုပ်ရပ်စဲခြင်း**

၁၅-၁ စာချုပ်ဝင်များသည် အောက်ဖော်ပြပါ အကြောင်းချင်း ရာတစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် စာချုပ်ရပ်စဲခွင့်ရှိစေရမည်-

(၁) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(၂) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင် ရွက်ရန် ပျက်ကွက်သဖြင့် တစ်ဖက်စာချုပ်ဝင်က တရားဝင်စာဖြင့် အကြောင်းကြားသော် လည်း ရက်ပေါင်း(၃၀)အတွင်း လိုက်နာခြင်း မပြုသည့်အခါ၊

(၃) မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်ပြီး အဆိုပါ ဖြစ်ရပ်များသည် တဆက် တည်း (၆)လ ထက်ကျော်လွန်ဖြစ်ပွားခြင်း၊

(၄) လုပ်ငန်း၏မူလရည်မှန်းချက်များကိုဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိ ခြင်း၊

၁၅-၂ ဤသဘောတူစာချုပ်ပါ စာချုပ်ကို ရပ်စဲလိုကြောင်းနှစ်ဦးနှစ်ဖက်သဘောဆန္ဒဖြင့် တင်ပြလာလျှင် စာချုပ်ရပ်စဲခွင့်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိမှသာလျှင် အကျိုးသက်ရောက်မှု ရှိစေရမည်။

**အပိုဒ်-၁၆ မြေသို့ပြန်လည်ဝင်ရောက်နိုင်ခြင်း**

၁၆-၁ အငှားချထားခြင်းခံရသူက စာချုပ်ပါ စည်းကမ်းချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်း အငှားချထားသူက ချအပ်သောနို့တစ်စာပါကာလများအတွင်း မဆောင်ရွက်မှု(သို့မဟုတ်)မလိုက်နာမှုကို ပြင်ဆင်ပေးရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊အငှားချထားသူသည် အငှားစာချုပ်နှင့် သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံးပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ

ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ အငှားစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်မည်ဟူ၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်သဘောတူညီကြပါသည်။ ဤသို့ စာချုပ်ရပ်စဲခြင်းမြေသို့ပြန်လည်ဝင်ရောက်နိုင်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ အငှားချထား သူက အငှားချထားခြင်းခံရသူထံမှရရှိမည့် အခွင့်အရေးများနှင့် တောင်းဆို ပိုင်ခွင့်များကို မထိခိုက်စေရ။

အပိုဒ်-၁၇ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၇-၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး ၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တား မြစ်ချက်များတရားဥပဒေစိုးမိုးရေးနှင့်ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ် မှောက်ခြင်း၊ စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်ကလိုအပ်သော သတိဝီရိယနှင့် ဆောင် ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်း မလွန် နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှု ထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်း ခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့် မရှိစေရ။

၁၇-၂ ထို့သို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက၊ ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄)ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ချင်းစာဖြင့်ရေး သား အကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင် သော ဖြစ်ရပ်မြောက်ပြီး၊ မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက် ကာလ အပိုင်းအခြားအတွက် မြေငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

အပိုဒ်-၁၈ အငြင်းပွားမှုများဖြေရှင်းခြင်း

၁၈-၁ ဤစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာညှိနှိုင်း ဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍ မရပါကထိုအငြင်းပွားမှုကို ဥပဒေနှင့် အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့် ရှိသောတရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

အပိုဒ်-၁၉ ဆွေးနွေးခြင်းနှင့် စာချုပ်ပြင်ဆင်ခြင်း၊ညှိနှိုင်းခြင်း

၁၉-၁ လုပ်ငန်းများအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေ များ (သို့မဟုတ်)စည်းကမ်းချက်များသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များ နှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်ကို နှစ်ဦးသဘောတူ ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက် ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

**အပိုဒ်-၂၀- လျှို့ဝှက်ချက်**

၂၀-၁ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စလုံးသည် အရေးကြီးသောစာရွက်စာတမ်းများ၊သတင်းအချက်အလက်များကို အခြားတတိယအဖွဲ့ အစည်းသို့ လွှဲပြောင်းပေးခြင်းမပြုရ။ သို့ရာတွင် ကုမ္ပဏီ၏ အကျိုးစီးပွားအလို့ငှာ ဒါရိုက်တာအဖွဲ့၏ သဘောတူဆုံးဖြတ်ချက်၊ အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် အခြားအဖွဲ့အစည်းသို့ လွှဲပြောင်းပေးနိုင်ခွင့်ရှိစေရမည်။

**အပိုဒ်-၂၁ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၂၁-၁ အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆောင်ရွက်ရမည့် နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာထိန်းသိမ်းကာကွယ်စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ ရေထုနှင့်မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာထိခိုက်ပျက်စီးဆုံးရှုံးခြင်းများအား ကာကွယ်ထိန်းချုပ်ခြင်း လုပ်ငန်းများကိုဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သော စက်များတပ်ဆင်ပေးခြင်း ၊ လေထုညစ်ညမ်းမှုကို မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့်အညစ်အကြေးစွန့်ပစ်သည့် အစိတ်အပိုင်းများကိုအန္တရာယ်ကင်းရှင်းစေရေးဆိုင်ရာ လိုအပ်သောအကာအကွယ်များ၊ အစီအစဉ်များကိုတည်ဆဲဥပဒေနှင့်အညီဆောင်ရွက်ထားရှိရမည်။

**အပိုဒ်-၂၂ စာပေးစာယူပြုလုပ်ရန်ကိစ္စ**

၂၂-၁ နို့တစ်စာများ(သို့မဟုတ်)အခြားအချက်အလက်အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့် ဖြစ်စေ၊ အင်္ဂလိပ်ဘာသာဖြင့် ဖြစ်စေ ရေးသားပြီးစာတိုက်မှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ၊ တယ်လက်(စ်)ဖြင့် ဖြစ်စေ၊ ဖက်(စ်)ဖြင့် ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာ ဆက်သွယ်ရေးနည်းစနစ်ဖြင့်ဖြစ်စေ ၊ သက်ဆိုင်ရာအဖွဲ့သို့ ဆက်သွယ်ဆောင်ရွက်နိုင်သည် ဆက်သွယ်နိုင်ရန်လိပ်စာမှာ ဤစာချုပ်တွင် ဖော်ပြပါရှိသော အောက်ဖော်ပြပါလိပ်စာအတိုင်းဖြစ်သည်-

(က) "အငှားချထားသူ"အတွက်-

(၁) အမည် ဒေါက်တာညီညီကျော်
(၂) ရာထူး ညွှန်ကြားရေးမှူးချုပ်
(၃) လိပ်စာ ရုံးအမှတ်(၃၉)၊ နေပြည်တော်
(၄) ဖုန်းအမှတ် ၀၆၇-၄၀၅၀၁၈
(၅) ဖက်(စ်)အမှတ် ၀၆၇-၄၀၅၀၁၈
(၆) E.mail dg.fd@ mptmail .net.mm

( ခ ) "အငှားချထားခြင်းခံရသူ"အတွက် -

(၁) အမည် ဦးမင်းဒင်

(၂) ရာထူး ဒါရိုက်တာ(Kappa Int'l Co.,Ltd)

(၃) လိပ်စာ အမှတ်(၅၈၆)၊ ကမ်းနားလမ်း၊ လမ်းမတော်မြို့နယ်

(၄) ဖုန်းအမှတ် ၀၁-၂၂၉၂၄၅ ,၀၉-၇၃၁၈၇၄၃၁

(၅) E.mail mindin08@ gmail.com

၂၂-၂ ယခုကဲ့သို့ စာရွက်စာတမ်းများကို ပေးပို့ဆက်သွယ်သည့်အခါများတွင် အခြားတစ်ဖက်မှ လက်ခံရရှိကြောင်း အထောက်အထားတစ်စုံတစ်ရာရရှိပြီးမှသာ ပေးပို့ခြင်းကို အတည်ပြုနိုင်သည်။ အကယ်၍ လိပ်စာအပြောင်းအလဲရှိပါကစာဖြင့် အခြားတစ်ဖက်သို့ရေးသား အကြောင်းကြားရမည်။

**အပိုဒ်-၂၃ ဘဏ်အာမခံငွေ**

၂၃-၁ အငှားချထားခြင်းခံရသူမှ လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေအဖြစ် တစ်နှစ်ငှားရမ်းခဖြစ်သောကျပ်၄၃၅၄၀၀၀(ကျပ်လေးဆယ့်သုံးသိန်းငါးသောင်းလေးထောင်တိတိ) အား အငှားချထားသူ၏ နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာန အမည်ဖြင့် ဖွင့်လှစ်ထားရှိသော ငွေစာရင်းအမှတ် MD-010613 တွင် ဘဏ်အာမခံထားရှိပေးရမည်။ အဆိုပါ ဘဏ်အာမခံငွေကို ဤစာချုပ် လက်မှတ်ရေးထိုးပြီး နောက်ရက်ပေါင်း (၃၀)အတွင်း တင်သွင်းရမည်။ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့် ကာလပြီးဆုံးသည့် အချိန်တွင် ဘဏ်အာမခံငွေကို ပြန်လည် ထုတ် ယူနိုင်ပါသည်။

၂၃-၂ အငှားချထားခြင်းခံရသူသည် စာချုပ်စည်းကမ်းတစ်ရပ်ရပ်ကို ချိုးဖောက်ပါက "အငှားချထားသူ" မှ အထက်အပိုဒ်(၂၃-၁)ပါ ဘဏ်အာမခံငွေကို သိမ်းယူခွင့်ရှိသည်။

**အပိုဒ်-၂၄ လုပ်ငန်းများလွှဲပြောင်းပေးအပ်ခြင်း**

၂၄-၁ အငှားချထားသော ကာလအတွင်း အငှားချထားခြင်းခံရသူသည် မိမိ၏ အခွင့်အရေးများ လုပ်ပိုင်ခွင့်များကို အခြားပုဂ္ဂိုလ် အဖွဲ့အစည်းများအား လွှဲပြောင်းပေးခြင်း ပြုလုပ်လိုပါက အငှားချထားသူအား ကြိုတင်အသိပေးအကြောင်းကြားရမည်။

၂၄-၂ အငှားချထားသူ၏ သဘောတူခွင့်ပြုချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရယူဆောင်ရွက်ရမည်။

**အပိုဒ်-၂၅ အထွေထွေ**

၂၅-၁ ဤသဘောတူစာချုပ်နှင့်အတူ ပူးတွဲဖော်ပြထားသည့် မြေပုံ၊ မြေရာဇဝင်စာရွက်စာတမ်း၊ အဆောက်အဦပုံစံများ အထောက်အထားများစသည့် နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသအဖြစ် မှတ်ယူရမည်။

၂၅-၂ ဤသဘောတူစာချုပ်ကို မိတ္တူကူးတူနှစ်စောင်တွင် လက်မှတ်ရေးထိုးပြီးစာချုပ်အသီးသီးသည် ဥပဒေအရတူညီမျှတစွာတရားဝင်လျှက်စာချုပ်ဝင်တစ်ဦးစီအတွက်မူရင်းတစ်စောင်အဖြစ်သတ်မှတ်ရမည်။

ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဦးစလုံး၏ တရားဝင်ကိုယ်စားလှယ်များမှ ကိုယ်တိုင်ဖတ်ရှုနားလည်ကြပြီးဖြစ်၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်၌ အထက်တွင်ဖော်ပြ ထားသည့် ၂၀၁၄ ခုနှစ်၊............... လ ၊ ( )ရက်နေ့တွင် အောက်ဖော်ပြပါ အသိသက်သေများ၏ ရှေ့မှောက်တွင် မိမိ၏ရုံးတံဆိပ်များ အသီးသီးခပ်နှိပ်လျှက် လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

| " အငှားချထားသူ "(ကိုယ်စား) | "အငှားချထားခြင်းခံရသူ "(ကိုယ်စား) |
|---|---|
| ( ဒေါက်တာညီညီကျော် ) | ( ဦးမင်းဒင်) |
| ညွှန်ကြားရေးမှူးချုပ် | ဒါရိုက်တာ |

**<u>အသိသက်သေများ</u>**

| (၁) | | (၂) | |
|---|---|---|---|
| အမည် | ...................... | အမည် | ...................... |
| ရာထူး | ...................... | ရာထူး | ...................... |
| လိပ်စာ | ...................... | လိပ်စာ | ...................... |
| "အငှားချထားသူ "(ကိုယ်စား) | | "အငှားချထားခြင်းခံရသူ" (ကိုယ်စား) | |

001357

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် .....၉၉၅...../ ၁၉၉၄–၁၉၉၅

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ......ကတ်ပါ.အင်တာနေရှင်နယ်..လီမိတက်..

...................................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၁၉၉၄.နှစ်၊ ..ဒီဇင်ဘာ...လ၊ ..၁၆.ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား

..၂၀၁၂နှစ်၊ ....မတ်.....လ၊ ..၁၄ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ဟိုတယ်
HOTEL

( အေးကို )

ညွှန်ကြားရေးမှူးချုပ်

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR

MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ...............995.......... of 1994-1995

I hereby certify that tenure of ........KAPPA..INTERNATIONAL..LIMITED

..........................................................................incorporated under the

Myanmar Companies Act on ............................16-12-1994..........................

is renewed affected from ..........................................14-3-2012..........................

( AYE KO )

Director General

Directorate of Investment and Company Administration

# ကုမ္ပဏီနှင့် သက်ဆိုင်သည့် အချက်အလက်များ

| | | |
|---|---|---|
| (က) | အုပ်ချုပ်မှုဒါရိုက်တာအမည်၊ | ဦးကျော်စိန်<br>၁၂/ဒဂန(နိုင်)၀၂၇၃၆၉ |
| (ခ) | ကုမ္ပဏီရုံးခန်းလိပ်စာ၊ | အခန်းအမှတ်-၂၀၂/၂၀၃၊ ဆန်းမစ်ပတ်ဗျူး(၃၅၀)၊အလုံလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |
| (ဂ) | ဆက်သွယ်ရန် ဖုန်းနံပါတ်၊ | ၀၁-၂၁၁၈၈၈၊ ၀၁-၂၁၁၉၆၆ (Ext:၂၀၂/၂၀၃) |
| (ဃ) | ဒါရိုက်တာများ အမည်စာရင်း၊ | ၁။ ဦးခင်အောင်ထွန်း<br>၁၂/ဗဟန(နိုင်)၀၈၁၃၁၅<br>၂။ ဒေါ်သန္တာနေဝင်း<br>၁၂/ဗဟန(နိုင်)၀၈၄၄၄၈<br>၃။ ဦးကျော်နီခင်<br>၁၂/ရကန(နိုင်)၀၆၅၃၉၀<br>၄။ ဒေါ်မြမြတ်ထွန်း<br>၁၂/ကမရ(နိုင်)၁၄၉၄၂၂<br>၅။ ဦးမင်းဒင်<br>၁၃/ကတန(နိုင်)၀၂၅၁၄၆<br>၆။ ဒေါ်ခင်မာလာ<br>၁၂/ဗဟန(နိုင်)၀၄၇၆၃၀<br>၇။ ဒေါ်စိန်တင့်<br>၁၂/ဗဟန(နိုင်)၀၄၇၄၀၃<br>၈။ ဒေါ်မြအေး<br>၁၂/ကမရ(နိုင်)၀၂၈၄၃၂ |

မှတ်ချက်။ (၁) ဤကုမ္ပဏီ မှတ်ပုံတင်လက်မှတ် သည် (၁-၁၂-၂၀၁၁) မှ (၃၀-၁၁-၂၀၁၄) ရက်နေ့အထိ (၃)နှစ် သက်တမ်း အတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လ အလိုတွင် သက်တမ်း တိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။

(၂) ကုမ္ပဏီအနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင် အဆိုပြုတင်ပြထားသောလုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့ မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန များ၏ တည်ဆဲ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်းရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်မှတ်ပုံတင်ရန် အတွက် ဒါရိုက်တာအဖွဲ့ (BOD) ၏ အထူးအစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။

(signature)

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(နန်းရိရိသန်း၊ ညွှန်ကြားရေးမှူး)

**C B BANK**

CO-OPERATIVE BANK LTD. IBS

# Statement

Account : 0010100500005231

Customer : 1000076626 KAPPA INTERNATIONAL LIMITED

Legal ID : 995/1994-1995

Currency : MMK

Printed Date : 26-Jun-2014

| Post Date | Reference | Narrative | Value Date | Debit | Credit | Closing Balance |
|---|---|---|---|---|---|---|
| | **Balance at Period Start** | | | | | **2,375.00** |
| 4-Jun-14 | FT14155WB3H6 | Transfer | 4-Jun-14 | 0.00 | 58,200,000.00 | 58,202,375.00 |
| 5-Jun-14 | TT141565F9VW | Cash Withdrawal | 5-Jun-14 | 58,200,000.00 | 0.00 | 2,375.00 |
| 12-Jun-14 | FT14163CVWW2 | Transfer | 12-Jun-14 | 0.00 | 58,050,000.00 | 58,052,375.00 |
| 16-Jun-14 | TT141673FGQZ | Cash Withdrawal | 16-Jun-14 | 18,750,000.00 | 0.00 | 39,302,375.00 |
| 26-Jun-14 | TT14177DC1RD | Cash Deposit | 26-Jun-14 | 0.00 | 52,000,000.00 | 91,302,375.00 |
| | **Balance at Period End** | | | | | **91,302,375.00** |

26.6.14

Manager
Co-operative Bank Ltd.
(International Banking Services)

တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ ဓာတ်ပုံ

ATTORNEY HOLDER PHOTO

တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ၏အကြောင်းအရာ

PARTICULARS OF ATTORNEY HOLDER

၁။ အမည် ............

NAME

၂။ မှတ်ပုံတင်အမှတ် ............

REGISTRATION NO.

၃။ အလုပ်အကိုင် ............

OCCUPATION

၄။ နေရပ်လိပ်စာ ............

ADDRESS

၅။ တယ်လီဖုန်းအမှတ် ............

TELEPHONE NO.

ဤစာအုပ်တွင် စာမျက်နှာ (၃၂) ပါဝင်ပါသည်။

THIS PASSBOOK CONSISTS OF (32) PAGES.



စာရင်းအမှတ် 1DA0497324

ACCOU[NT NO.]



စာရင်းပိုင်ရှင်ဓာတ်ပုံ

ACCOUNT HOLDER PHOTO

စာရင်းပိုင်ရှင်၏ အကြောင်းအရာ

PARTICULARS OF ACCOUNT HOLDER

Kappa International Ltd.

၁။ အမည် U Kyaw Ni Khin

NAME 12/Ya Ka Na (N) 065390

၂။ မှတ်ပုံတင်အမှတ် U Khin Aung Htun

REGISTRATION NO. 12/Ba Ha Na (N) 081315

၃။ အလုပ်အကိုင် U Kyaw Sein

OCCUPATION 12/Da Ga Na (N) 027369

၄။ နေရပ်လိပ်စာ Construction, Thamar Hotel

ADDRESS Rm 204, Summit Parkview

၅။ တယ်လီဖုန်းအမှတ် 350, Ahlone Rd, Dagon

TELEPHONE NO. 211888, 211966 Ext 202, 203

ထုတ်ပေးသည့်ရက်စွဲ 7. 6. 12

DATE OF ISSUE

FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 12th of AUGUST 2006

on the 12th of AUGUST 2006 of the * KAPPA INTERNATIONAL LIMITED

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 150 SHARES

" " " " .....

Nominal amount of the shares so allotted .... KS. 150,000/-

" " " " .....

Amount paid or due and payable on each such share ..... KS.1,000/-(FULLY PAID)

" " " " .....

Number of ordinary shares allotted for a consideration other than cash NIL

Nominal amount of the ordinary shares so allotted ..... NIL

Amount to be treated as paid on each such share ..... NIL

The consideration for which such share have been allotted is as follows:- NIL

---

**NOTE:** In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.

Presented for filing by :

Name, Address and Description of Allotees

| Names & N.R.C No | Address | Description | Number of Shares Allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. DAW KHIN MARLAR 12/BHA HA NA(NAING) 047630 | NO.11, KOKKINE YEIKTHAR STREET. SHWE TAUNG KYAR 2ND QUARTER, BAHAN TOWNSHIP, YANGON. | MERCHANT | | 50 |
| 2. DAW SEIN TIN 12/BHA HA NA(NAING) 047403 | NO.54/J, SHWE TAUNG KYAR 2ND QUARTER, BAHAN TOWNSHIP, YANGON. | MERCHANT | | 50 |
| 3. DAW MYA AYE 12/KA MA YA(NAING) 028432 | NO.137(B), THAN LWIN STREET, KAMAYUT TOWNSHIP, YANGON. | MERCHANT | | 50 |
| | | | TOTAL | 150 SHARES |

Signature

Date 12.8.2006.

Khin Aung Htun
Managing Director
Kappa Int'l Ltd.

// 

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : KAPPA INTERNATIONAL LIMITED. Presented by : U KHIN AUNG HTUN (M.D)

| | The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|---|
| 1. | U KHIN AUNG HTUN | MYANMAR 12/BA HA NA (NAING)081315 | NO 54/J,SHWE TAUNG KYAR ST,BAHAN TOWNSHIP, YANGON. | MERCHANT | CHANGE FROM DIRECTOR TO MANAGING DIRECTOR W.E.F ON ( 21 .3.2013). |
| 2. | U KYAW SEIN | MYANMAR 12/DA GA NA (NAING)027369 | NO 7,KOKKINE YEIKTHA STREET, BAHAN TOWNSHIP, YANGON. | MERCHANT | CHANGE FROM MANAGING DIREC TO DIRECTOR W.E.F ON ( 21 .3.2013). |
| 3. | DAW THANDAR NE WIN | MYANMAR 12/BA HA NA (NAING)084448 | NO 7,KOKKINE YEIKTHA STREET, BAHAN TOWNSHIP, YANGON. | MERCHANT | DIRECTOR |
| 4. | U KYAW NI KHIN | MYANMAR 12/YA KA NA (NAING)065390 | NO 15-E ,KOKKINE YEIKTHA STREET, BAHAN TOWNSHIP, YANGON. | MERCHANT | DIRECTOR |
| 5. | DAW MYA MYAT TUN | MYANMAR 12/KA MA YA (NAING)149422 | NO 137(B-1)THAN LWIN STREET, KAMAYUT TOWNSHIP, YANGON. | MERCHANT | DIRECTOR |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of ........................ and by writing against any former Director's name the word "dead" " resigned" or as the case may be giving the date of change against the entry.

Signature ..........................

Designation .... Khin Aung Htun Managing Director Kappa Int'l Ltd.

Dated this ..21.3.2013......................

Form(26)

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

( Myanmar Companies Act, See Section.87 )

Name of Company : KAPPA INTERNATIONAL LIMITED.

Presented by : [illegible]

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 6. U MIN DIN | MYANMAR 13/KA TA NA (NAING)025146 | NO 95(KA-1),LAN THIT ST,NANT THAR GONE, INSEIN TOWNSHIP, YANGON. | MERCHANT | DIRECTOR |
| 7. DAW KHIN MARLAR | MYANMAR 12/BA HA NA (NAING)047630 | NO 11,KOKKINE YEIKTHA STREET, BAHAN TOWNSHIP, YANGON. | MERCHANT | RESIGNED FROM DIRECTOR AS WELL AS SHAREHOLDER W.E.F ON (21.3.2013) |
| 8. DAW SEIN TIN | MYANMAR 12/BA HA NA (NAING)047403 | NO 54/J,SHWE TAUNG KYAR ST,BAHAN TOWNSHIP, YANGON. | MERCHANT | RESIGNED FROM DIRECTOR AS WELL AS SHAREHOLDER W.E.F ON (21.3.2013) |
| 9. DAW MYA AYE | MYANMAR 12/KA MA YA (NAING)028432 | NO 137(B-1),THAN LWIN STREET,KAMAYUT TOWNSHIP, YANGON. | MERCHANT | RESIGNED FROM DIRECTOR AS WELL AS SHAREHOLDER W.E.F ON (21.3.2013) |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ........................ and by writing against any former Director's name the the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ............................................

Designation ............................................ Khin Aung Htun
Managing Director
Kappa Int'l Ltd.

Dated this 21.3.2013 ............................................

Form (26)

THE MYANMAR COMPANIES ACT

# LIST OF SHAREHOLDERS.

# FORM E.

**(As required by part II of the Act. See Section 32)**

* * ● * *

## SUMMARY OF SHARE CAPITAL AND SHARES OF THE

KAPPA INTERNATIONAL COMPANY LIMITED

*Made up to the* 30 th *day of* OCTOBER *being the day of the first Ordinary General Meeting in* 2013

| | |
|---|---|
| Nominal Share Capital - K 500,000,000/- | |
| Divided into * 500,000 Shares of K. 1,000/- each | |
| and Shares of K. each | |
| and Shares of K. each | |
| and Shares of K. each | |
| Total number of shares taken up to the thday OCTOBER ..2013 (This number must agree, with the total shown in the list; as held by existing members) | 60400 SHARES |
| Numbers of Shares issued subject to payment wholly in cash .... | |
| Numbers of Shares issued as fully paid-up otherwise than in cash | |
| Numbers of Shares issued as partly paid-up to the extent of per share Otherwise than in cash | |
| ● There has been called up on each of 60400 Shares K. | Ks 1,000/- |
| There has been called up on each of Shares K. | (FULLY PAID UP) |
| There has been called up on each of Shares K. | |
| + Total amount of calls received including payments on application and allotment ... ... ... .... K. | KS. 60,400,000/- |
| Total amount agree to be considered as paid shares which have been issued as fully paid up otherwise than in cash .... K. | NIL |
| Total amount agreed to be considered as paid shares which have been issued as Partly paid-up to the extent of .... ... ... ... per Share ... .... K. | |
| Total amount of Calls unpaid ... .... .... .... K. | |
| Total amount of sums paid by way of commission in respect of shares or debentures or allowed by way of discount since date of last summary ... ... ... .... K. | NIL |
| Total amount of shares forfeited ... ... ... .... K. | |
| Aggregate number of shares forfeited ... ... ... .... K. | |
| Total amount of Shares and stock for which share-warrants are outstanding ... ... ... .... K. | |
| Total amount of share-warrants issued ... ... ... .... K. | |
| Do do surrendered since date of last summary K. | |
| Number of shares or amount of stock comprised in each share-warrant ... ... ... .... K. | |
| Total amount of debt due from the Company in respect of all Mortgages and Charges which are required to be registered with the Registrar under this Act ... ... ... .... K. | Khin Aung Htun<br>Managing Director<br>Kappa.Int'l.Ltd. |

When there are shares of different kind of mounts (e.g., Preference and Ordinary or K.2000 or 1000) state the numbers and nominal values separately.

● Where various amounts have been called, or there are shares of different kinds state them separately.

+ Include what has been received or forfeited as on existing shares.

FORM E-Contd.

LIST OF PERSONS HOLDING SHARES IN THE ..........

On the ______ 30th ______ day of

*And of Persons who have held shares here in at any time*

*Addresses and account:*

NAMES ADDRESSES AND OCCUPATIONS.

| Folio in register | Name in Full | Father's Name. | Address | Occupation or Casts | *Nationally |
|---|---|---|---|---|---|
| 1. | U KHIN AUNG HTUN | | NO 54/J,SHWE TAUNG KYAR ST,BAHAN TSP, YANGON. | MANAGING DIRECTOR | MYANMAR |
| 2. | U KYAW NI KHIN | | NO 15(E), KOKKINE YEIK THA ST,BAHAN TSP,YANGON. | DIRECTOR | MYANMAR |
| 3. | U KYAW SEIN | | NO 7,KOKKINE YEIK THA ST,BAHAN TSP, YANGON. | DIRECTOR | MYANMAR |
| 4. | DAW THANDAR NE WIN | | NO 7,KOKKINE YEIK THA ST,BAHAN TSP, YANGON. | DIRECTOR | MYANMAR |
| 5. | DAW MYA MYAT TUN | | NO 137(B-1),THAN LWIN ST,KAMAYUT TSP,YANGON. | DIRECTOR | MYANMAR |
| 6. | U MIN DIN | | NO95(KA-1),LAN THIT ST,NANT THAR GONE,INSEIN TSP, YANGON. | DIRECTOR | MYANMAR |

Khin Aung Htun
Managing Director
Kappa Int'l Ltd.

• State the aggregate number of shares forfeited (if any)

• The aggregate number of shares held and not the distinctive numbers, must be stated, and the column must be added up throughout so as to make one total to agree with that stated in the summary to have been taken up.

\# When the shares are of different classes these columns may be subdivided, so that the number of each class held or transferred may be shown.

KAPPA INTERNATIONAL COMPANY LIMITED

.................................................

OCTOBER 2013.

*since the date of last return ,showing their names and of the shares so held*

| Date and number of certificate of citizenship if issued by Goverment of the Union of Myanmar | ACCOUNT OF SHARES | | | | | |
|---|---|---|---|---|---|---|
| | | Particulars of shares Transferred since the date of the last return by persons who are still Members | | Particulars of Shares Transferred since the date of the last return by persons who ceased to be Members | | |
| | Number of shares held by existing Members at date of return | Number | Date of Registration of Transfer | Number | Date of Registration of Transfer | Remarks |
| 12/BA HA NA (NAING) 081315 | 10720 | | | | | |
| 12/YA KA NA (NAING) 065390 | 6596 | | | | | |
| 12/DA GA NA (NAING) 027369 | 15000 | | | | | |
| 12/BA HA NA (NAING) 084448 | 15000 | | | | | |
| 12/KA MA YA (NAING) 149422 | 10671 | | | | | |
| 13/KA TA NA (NAING) 025146 | 2413 | | | | | |
| | ========= | | | | | |
| TOTAL | 60400 | SHARES | | | | |
| | ========= | | | | | |

Khin Aung Htun
Managing Director
Kappa Int'l Ltd.

The date of Registration of each Transfer should be given as wellas the Number of Shares transferred on each date The particulars should be placed opposite the name of the Tranferor and not opposite that of the Transferee,but the name of the Transferee may be inserted in the "Remarks" column,immediately opposite the particulars of each Transfer.

FORM E - Contd

Names and addresses of the persons who are the DIRECTORS of the KAPPA INTERNATIONAL ........ COMPANY LIMITED

on the 30TH day of OCTOBER 20 2013

| NAME | ADDRESS | FOREIGNERS | Nationality Centizens of the Union of Myanmar |
|---|---|---|---|
| 1. U KHIN AUNG HTUN | NO 54/J, SHWE TAUNG KYAR STREET,BAHAN TSP,YANGON. | | MYANMAR 12/BA HA NA(NAING) 081315 |
| 2. U KYAW NI KHIN | NO 15(E),KOKKINE YEIK THA STREET,BAHAN TSP,YANGON. | | MYANMAR 12/YA KA NA(NAING) 065390 |
| 3. U KYAW SEIN | NO (7),KOKKINE YEIK-THA STREET, BAHAN TSP,YANGON. | | MYANMAR 12/DA GA NA(NAING) 027369 |
| 4. DAW THANDAR NE WIN | NO (7),KOKKINE YEIK-THA STREET, BAHAN TSP,YANGON. | | MYANMAR 12/BA HA NA(NAING) 084448 |
| 5. DAW MYA MYAT TUN | NO137(B-1),THAN LWIN STREET,KAMAYUT TSP, YANGON. | | MYANMAR 12/KA MA YA(NAING) 149422 |
| 6. U MIN DIN | NO 95(KA-1),LAN THIT STREET,NANT THA GONE, INSEIN TSP,YANGON. | | MYANMAR 13/KA TA NA(NAING) 025146 |

Khin Aung Htun
Managing Director
Kappa Int'l Ltd.

FORM E - Contd

Names and addresses of the persons who are the MANAGERS of the

KAPPA INTERNATIONAL ..................................................... COMPANY LIMITED

on the 30 TH day of OCTOBER 2013

| NAME | ADDRESS | FOREIGNERS | Nationality Centizens of the Union of Myanmar |
|---|---|---|---|
| | | | |

I also hereby certify that the Company has not since the date of last return issued any invitation to the public to subscribe for the shares or debenture of the Company.

Khin Aung Htun
Managing Director
Kappa Int'l Ltd.

Note - Banking Companies must add a list of all their place of business

I U KHIN AUNG HTUN (MANAGING DIRECTOR) do hereby certify th

the above list and summary turly and correctly state the facts as they sto

on the 30TH day of OCTOBER 2013

Signture ______________________

Khin Aung Htun
Managing Director
Kappa Int'l Ltd.

*(State whether Director Manager or Secretary.)*

THE MYANMAR COMPANIES ACT

——: O :——

# FORM E.

NAME OF THE COMAPANY:

KAPPA INTERNATIONAL LIMITED

——: O :——

## REGISTERED OFFICE

NO 22/24,NAWARAT CONDO 2(H),PYI SAE QUARTER, SAMON STREET,

DAGON TOWNSHIP,YANGON.

*MANAGING AGENIS:*

Khin Aung Htun
Managing Director
Kappa Int'l Ltd.

Summary of Share Capital and Shares.
List of Persons holding Shares.
Names and Addresses of Directors.
Names and Addresses of Managers.

Date, 30 TH, OCTOBER 2013.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော

အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ကက်ပါ အင်တာနေရှင်နယ် လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

## Memorandum Of Association

*AND*

## Articles Of Association

*OF*

# KAPPA INTERNATIONAL LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ကက်ပါ အင်တာနေရှင်နယ် လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

၁။ ကုမ္ပဏီ၏ အမည်သည် ကက်ပါ အင်တာနေရှင်နယ် လီမိတက် ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်ရုံးသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိလိမ့်မည်။

၃။ ကုမ္ပဏီ ဘည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ—

(၁) အောက်ပါလုပ်ငန်းများကို မိမိတစ်ဦးတည်းဖြစ်စေ၊ အခြားမည်သည့် နိုင်ငံခြား သို့မဟုတ် ပြည်တွင်း လုပ်ငန်းများနှင့် ဖြစ်စေ ဖက်စပ် လုပ်ငန်း၊ ပူးပေါင်းဆောင်ရွက်ခြင်းလုပ်ငန်း သို့မဟုတ် အစုစပ်လုပ်ငန်း အဖြစ်ဖြင့် ပေါ့ပ်ကိုင်ရန်။

(က) ပစ္စည်းအမျိုးမျိုးနှင့် ပတ်သက်၍ သွင်းကုန်လုပ်ငန်းရှင်များ၊ ဆုတ်ကုန်လုပ်ငန်းရှင်များ၊ စက်မှုလုပ်ငန်းရှင်များ၊ အထွေထွေကုန်သန်းရောင်းဝယ်ရေး လုပ်ငန်းရှင်များ၊ အပ်ကုန်စနစ်ဖြင့် ကုန်ပစ္စည်းတင်ပို့သူ လုပ်ငန်းရှင်များ၊ ကုန်ပစ္စည်းလက်ခံသူ လုပ်ငန်းရှင်များ၊ လက်ကားရောင်းသူများနှင့် လက်လီရောင်းသူများ၊ ကုန်လှောင်ရုံ လုပ်ကိုင်သူများ၊ ကုန်သိုလှောင်သူများ၊ ပွဲစားများ၊ ကုန်စည်ကို ကုန်းလမ်း ရေလမ်းဖြင့် သယ်ယူပို့ဆောင်ပေးသူများ၊ ကော်မရှင်စား ကိုယ်စားလှယ်များ၊ ကုန်ပစ္စည်းပို့ဆောင်ရေးရှင်းနှင့် ကုန်စည်ရှင်းလင်းရေး ကိုယ်စားလှယ်များ၏ လုပ်ငန်းများ၊

(ခ) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများဖြစ်သည့် မြေပဲ၊ နှမ်း၊ ရာဘာ၊ ပဲမျိုးစုံ သီးနှံများ၊ ဆေးရွက်ကြီး၊ သီဟိုဠ်သရက်၊ ပီလောပီနံနှင့် စားသုံးသီးနှံများ၊ စားသုံးဥများ၊ မျိုးစေ့များ၊ သစ်သီးဝလံများနှင့် ပန်းမာလ်များကို စိုက်ပျိုးထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုပ်ပိုးထည့်သွင်းခြင်း၊ လက်လီလက်ကား ရောင်းဝယ်ခြင်း၊ ကြိတ်ခွဲခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ ပြည်ပသို့ တင်ပို့ခြင်း၊ ပြည်ပမှ တင်သွင်းခြင်း လုပ်ငန်းများ၊

(ဂ) (ကျွန်းသစ်မှအပ) သစ်မာများ၊ သစ်ပျော့များ၊ သစ်လုံးများ၊ သစ်ခွဲသားများ၊ အလှဆင်ကြမ်းခင်းတုံးများ၊ အထပ်သားများ၊ ကြိမ်နှင့် ကြိမ်ဖြင့်ပြုလုပ်သော ပစ္စည်းများ၊ သစ်တောထွက်ပစ္စည်းများကို ထုတ်လုပ်ရေးအတွက် သစ်ကွက် ငှားရမ်းရယူခြင်း၊ ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ အသားသေစေခြင်း၊ ရောင်းဝယ် ဖောက်ကားခြင်းနှင့် ပြည်ပသို့ တင်ပို့ရောင်းချခြင်း လုပ်ငန်းများ၊

(ဃ) တိရစ္ဆာန်မွေးမြူခြင်း၊ တိရစ္ဆာန်နှင့် တိရစ္ဆာန်ထွက်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွတ်ခြင်းနှင့် အထက်ဖော်ပြပါ ပစ္စည်းများအား ဝယ်ယူရေး၊ ရောင်းချရေး၊ ဖြန့်ဖြူးရေး၊ သယ်ယူပို့ဆောင်ရေး၊ သိုလှောင်ရေး၊ ပြည်တွင်းသို့ တင်သွင်းရေးနှင့် ပြည်ပသို့ တင်ပို့ရေးလုပ်ငန်းများ၊

(င) ရေထွက်ကုန်ပစ္စည်းများ ဖြစ်သည့် ရေချို ရေငန် ငါး၊ ပုစွန်၊ ငါးခြောက်၊ ပုစွန်ခြောက်နှင့် ရေခဲစိမ်ငါး၊ ပုစွန်များ။ မျှင်ငါးပိနှင့် မျှင်ငန်ပြာရည်၊ ငါးငပိနှင့် ငါးငန်ပြာရည်၊ စည်သွတ်ပြီးနှင့် ပြုပြင်ပြီး ရေချို ရေငန် ငါးနှင့်ပုစွန်၊ ငါးမန်းတောင်၊ ငါးစီဖောင်းများ၊ ရေခူများ၊ ဂဏန်းအရှင်များ၊ ငါးအရှင်များနှင့် အခြားသော ရေထွက်ကုန်ပစ္စည်းများကို လက်လီလက်ကား ရောင်း

(စ) ငါးဖမ်းပိုက်များ၊ ငါးမျှားကြိုးများ၊ ငါးမျှားတံများ၊ ကြိုးများနှင့် အခြား ငါးဖမ်းလုပ်ငန်းတွင် လိုအပ်သည့် ကိရိယာ တန်ဆာပလာများကို ထုတ်လုပ်ခြင်း၊ လက်လီလက်ကား ရောင်းဝယ်ခြင်း၊ နိုင်ငံခြားမှ တင်သွင်းခြင်းနှင့် နိုင်ငံခြားသို့ တင်ပို့ခြင်း လုပ်ငန်းများ၊

(ဆ) သဘာဝမြေဩဇာများ၊ ဓာတ်မြေဩဇာများ၊ ပိုးသတ်ဆေးများနှင့် တိရစ္ဆာန်အစာအစာ များကို ထုတ်လုပ်ရေး၊ လက်လီလက်ကား ဝယ်ယူရောင်းချရေး လုပ်ငန်းများ၊

(ဇ) အမျိုးအစား အမျိုးအမည်မရွေး အားလုံးသော ပလတ်စတစ်နှင့် ပလတ်စတစ်ပစ္စည်းများ၊ သားရေ ကွင်းများ၊ ရာဘာဆိုးပြားများ၊ မိုးရေကာဖျင်များနှင့် အခြားသော ပလတ်စတစ်၊ ရာဘာနှင့် ပတ်သက် ဆက်နွယ်သမျှ ထွက်ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ လက်လီ လက်ကား ရောင်းဝယ်ခြင်း၊ နိုင်ငံခြားမှ တင်သွင်းခြင်းနှင့် နိုင်ငံခြားသို့ တင်ပို့ခြင်း လုပ်ငန်းများ၊

(ဈ) နိုင်ငံအားလုံးမှ ထုတ်လုပ်သည့် စက်ပစ္စည်းများ၊ မော်တော်ယာဉ်များ၊ ဘတ်စ်ကားများ၊ ထရပ်ကားများ၊ နောက်တွဲယာဉ်များ၊ မော်တော်ဆိုင်ကယ်များ၊ စက်ဘီးများ၊ တာယာများနှင့် အပို ပစ္စည်းအမျိုးမျိုးတို့ကို အသစ်ဖြစ်စေ၊ အသုံးပြုပြီးဖြစ်စေ၊ သို့မဟုတ် ပြန်လည်မွမ်းမံ ပြင်ဆင်ပြီး ဖြစ်စေ၊ ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းရှင်များ၊ ပြည်ပသို့ တင်ပို့သည့် လုပ်ငန်းရှင်များ၊ လက်လီ လက်ကား ရောင်းဝယ်ဖောက်ကားသူများ၏ လုပ်ငန်းများနှင့် ကော်မရှင် ကိုယ်စားလှယ်အဖြစ် ဆောင်ရွက်သည့် လုပ်ငန်းများ၊

(ည) အမျိုးမျိုးသော လက်မှုအနုပညာပစ္စည်းများ၊ပန်းပုထွင်းပစ္စည်းများ၊ ပန်းချီကားချပ်များ၊ ယွန်းထည် ပစ္စည်းများနှင့် ပရိဘောဂအမျိုးမျိုးတို့ကို ထုတ်လုပ်ရေး၊ ဝယ်ယူရေးနှင့် ရောင်းချရေး လုပ်ငန်းများ၊

(ဋ) ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ ပြင်ပ၌ ဖြစ်စေ၊ မည်သည့် စာအုပ်၊ ဂျာနယ်၊ သတင်းစာနှင့် မဂ္ဂဇင်းများကိုမဆို ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်းများနှင့် ကြော်ငြာခြင်းနှင့် ကြော်ငြာကိုယ်စားလှယ် လုပ်ငန်းများ၊

(ဌ) ကျောက်၊ သဲ၊ ထုံး၊ အုတ်၊ အိမ်မိုးသွပ်ပြားများ၊ ပြောင်သွပ်ပြားများ၊ အလှဆင် ကြွေပြားများ မှန်၊ သံချောင်း၊ သုတ်ဆေး၊ သင်မာ (ကျွန်းသစ်မှအပ)၊ ကုန်မာပစ္စည်းနှင့် အခြားသော ဆောက် လုပ်ရေး ပစ္စည်းများကို ထုတ်လုပ်ရောင်းဝယ်သူများ၏ လုပ်ငန်းများ၊

(ဍ) ဟိုတယ်များ၊ မိုတယ်များ၊ ကော်ဖီဆိုင်များ၊ အဖျော်ယမကာ အရောင်းဆိုင်များ၊ စားသောက်ဆိုင် များ၊ ကုန်တိုက်ကြီးများ၊ ကုန်တိုက်များ၊ စတိုးဆိုင်များနှင့် အခြားသော ကုန်မျိုးစုံဆိုင်များ၊ အနားယူအပန်းဖြေ စခန်းများ၊ လမ်းခရီးတွင် ရပ်နားတည်းခိုနိုင်သည့် အိမ်များ၊ အားလပ်ရက် အပန်းဖြေစခန်းများ၊ ဘီးတပ်ထားသည့် အိမ်ငယ်များ၊ အခန်းအများအပြားပါ အိမ်ခန်းပိုင်ရှင် များ၊ အစားအစာ စည်သွတ်ပစ္စည်း ထောက်ပံ့ပေးသွင်းသူများ၊ ပျော်ပွဲရွှင်ပွဲမျိုးစုံ ခင်းကျင်းပြသ သူများ၏ လုပ်ငန်းများကို ဖွင့်လှစ်ရေးနှင့် ဆောင်ရွက်ရေး လုပ်ငန်းများ၊

(ဎ) ဟိုတယ်သုံးပစ္စည်းများဖြစ်သည့် အိုး၊ခွက်၊ပန်းကန်၊ဇွန်း၊ခက်ရင်း၊ ဓား စသည် များနှင့် အခြားသော ဆက်နွယ်ပတ်သက်သမျှ ကိရိယာတန်ဆာပလာများကို ဝယ်ယူခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းများ၊

(ဏ) ဟိုတယ်တွင်း ကျွေးမွေးဧည့်ခံခြင်း ဝန်ဆောင်လုပ်ငန်းများ၊ ဖျော်ဖြေရေး လုပ်ငန်းနှင့် အခြား ဟိုတယ်နှင့် ပတ်သက်သမျှ ဝန်ဆောင်လုပ်ငန်းများ။

(၂) သံ၊ သံမဏိ၊ သတ္တုပစ္စည်း အမျိုးမျိုးနှင့် ဒါရိုက်ဘာအဖွဲ့က ဆုံးဖြတ်အတည်ပြုသော အခြားသော ကုန် ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ပြည်တွင်းပြည်ပ ရောင်းဝယ်ဖောက်ကားခြင်း ပြုလုပ်ရန်အတွက် စက်ရုံ အလုပ်ရုံများ တည်ထောင်ရန်။

(၃) အစိုးရပိုင် စက်ရုံ၊ အလုပ်ရုံများကို ငှားရမ်း၊ မွမ်းမံ၊ ပြင်ဆင်၊ သည်ပတ်စေ၍ ကုန်ပစ္စည်းများကို ထုတ်လုပ် ရန်နှင့် ယင်းထုတ်ကုန်ပစ္စည်းများကို ပြည်တွင်း ပြည်ပတွင် လက်လီလက်ကား ရောင်းဝယ်ဖြန့်ဖြူးရန်။

(၄) သက်ဆိုင်ရာ အာဏာပိုင်၏ ခွင့်ပြုချက်ဖြင့် စက်မှုနှင့် ဆောက်လုပ်ရေးသုံး ပစ္စည်းများဖြစ်သည့် သဲကျောက်၊ ထုံးကျောက်၊ ဂေါ်ဒန်ကျောက်နှင့် လိပ်သည်းကျောက်များ ထုတ်လုပ်ခြင်း၊ (ပြည်တွင်းပြည်ပ) ရောင်းဝယ် ခြင်းနှင့် သယ်ယူပို့ဆောင်ခြင်း လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန်။

[illegible] (အစိုး အခေါက်၊ အရည်၊ အမှုန့် စသည်များ) နှင့် သနပ်ခါးအား ပြုပြင်ပြောင်းလဲ ထုတ်လုပ်

(၆) အောက်ပါလုပ်ငန်းများကို ကန်ထရိုက်စနစ်ဖြင့်ဖြစ်စေ၊ တာဝန်ခံ ဆောင်ရွက်ခြင်းဖြင့် ဖြစ်စေ လုပ်ကိုင်ရန်။

(က) မြို့ပြအင်ဂျင်နီယာလုပ်ငန်း၊ လျှပ်စစ်အင်ဂျင်နီယာလုပ်ငန်း၊ စက်မှုအင်ဂျင်နီယာလုပ်ငန်း၊ ဗိသုကာလုပ်ငန်း၊ အတွင်းအပြင် ဒီဇိုင်းအလှဆင်လုပ်ငန်းနှင့် အခြားအထွေထွေ ဆောက်လုပ်ရေးလုပ်ငန်းများ၊

(ခ) ဆောက်လုပ်ရေး စီမံကိန်းများ၊ စက်မှုလုပ်ငန်းများနှင့် အခြားအင်ဂျင်နီယာ လုပ်ငန်းများနှင့် ပတ်သက်သမျှတို့တွင် စူးစမ်းလေ့လာခြင်း၊ သုတေသနပြုခြင်း၊ စီမံကိန်း ရေးဆွဲခြင်း၊ ပုံထုတ်ခြင်း၊ ကြီးကြပ်ခြင်း၊ စုဆောင်းခြင်း၊ နည်းပညာဆိုင်ရာ လမ်းညွှန်ခြင်း၊ စီမံခန့်ခွဲခြင်းနှင့် အဘိုင်ပင်ခံ လုပ်ငန်းများ။

(ဂ) မြေယာဖွံ့ဖြိုးရေး၊ မြေခင်းပြုပြင် အလှဆင်ခြင်း၊ အိမ်ယာနှင့် အများပြည်သူများအတွက် ဥယျာဉ်ပန်းခြံ၊ အပန်းဖြေစခန်းများနှင့် အခြား အဆောက်အအုံများ တည်ဆောက်ခြင်းနှင့် လမ်းများ၊ တံတားများ၊ ရေကြောင်းများ၊ ရေကာတာများ၊ စက်ရုံ၊ အလုပ်ရုံ စသည်များကို တည်ဆောက်ခြင်း၊ တပ်ဆင်ခြင်း၊ ပြင်ဆင်ခြင်း၊ မွမ်းမံပြုပြင်ခြင်း၊ ဖြိုချခြင်းနှင့် မြေယာအိုးအိမ်များ ရောင်းဝယ်ခြင်း၊ ငှားရမ်းခြင်း၊ အကျိုးဆောင်ခြင်း၊ စီမံခန့်ခွဲခြင်း၊ တန်ဖိုးဖြတ်ခြင်း၊

(ဃ) ဆောက်လုပ်ရေးပစ္စည်းများကို တီထွင်ခြင်း၊ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းနှင့် ငှားရမ်းခြင်း။

(င) စက်မှုလုပ်ငန်း အသစ်များနှင့် စီးပွားရေး စီမံကိန်းများ၌ ဖြစ်မြောက်နိုင်စွမ်း ရှိ မရှိ လေ့လာခြင်း၊ ခန့်မှန်းကုန်ကျစရိတ် တွက်ချက်ခြင်း၊ ကွင်းဆင်းလေ့လာ တွက်ချက်ခြင်းများ၊

(၇) အောက်ပါ ကုန်ပစ္စည်းများကို လက်လီလက်ကား ရောင်းဝယ်ရန်၊ ကြိတ်ခွဲရန်၊ ထုတ်လုပ်ရန်၊ ဖြန့်ဖြူးရန်၊ သယ်ယူပို့ဆောင်ရန်၊ သိုလှောင်ရန်၊ ကိုယ်စားလှယ်အဖြစ် လုပ်ကိုင်ရန်၊ ပြည်ပသို့ တင်ပို့ရန်နှင့် ပြည်တွင်းသို့ တင်သွင်းရန်။

(က) တိရစ္ဆာန်နှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများ၊

(ခ) အစိုးရပိုင်၊ သမဝါယမပိုင်၊ ဖက်စပ်ကော်ပိုရေးရှင်းပိုင် သို့မဟုတ် ပုဂ္ဂလိကပိုင် စက်ရုံအလုပ်ရုံများမှ ထုတ်လုပ်သည့် ကုန်ကြမ်းနှင့် ကုန်ချောများ၊

(ဂ) ကြွေထည် မြေထည် ကုန်ပစ္စည်းများနှင့် ဘိလပ်မြေ၊

(ဃ) အိမ်သုံး၊ လူသုံးနှင့် အလှကုန်ပစ္စည်းများ၊

(င) စည်သွတ်ဗူးအမျိုးမျိုး စသည်များ၊

(စ) နို့နှင့် နို့ထွက်ပစ္စည်း၊ စားသောက်ကုန်များ၊ ဖျော်ရည်နှင့် အချိုရည်များ၊

(ဆ) လက်ဖက် အစိုအခြောက်၊ ကော်ဖီစေ့နှင့် ကော်ဖီမှုန့်များ၊

(ဇ) စက်အပိုပစ္စည်းအမျိုးမျိုး၊ စက်ပစ္စည်းကိရိယာနှင့် တန်ဆာပလာပစ္စည်း အမျိုးမျိုးများ၊

(၈) အမျိုးအစား အမျိုးအမည်မရွေး၊ အားလုံးသော အမွှေးနံ့သာများနှင့် အလှကုန်များကို နိုင်ငံခြားသို့ တင်ပို့သူများအလုပ်၊ ပြည်တွင်းသို့ တင်သွင်းသူများအလုပ်၊ ထုတ်လုပ်သူများအလုပ်၊ လက်လီလက်ကား ရောင်းဝယ်သူများ၏ အလုပ်ကို လုပ်ကိုင်ဆောင်ရွက်ရန်။

(၉) လူနှင့် တိရစ္ဆာန်သုံး ဆေးဝါးများ၊ တိုင်းရင်းဆေးများ၊ ဆေးဝါးကုန်ကြမ်းပစ္စည်းများ၊ ဓာတုဗေဒ ပစ္စည်းများနှင့် စက်မှုလုပ်ငန်းသုံး ကုန်ကြမ်းပစ္စည်းများကို လက်လီလက်ကား ဝယ်ယူရောင်းချရန်၊ ထုတ်လုပ်ရန်၊ ဖြန့်ဖြူးရန်၊ သယ်ယူပို့ဆောင်ရန်၊ သိုလှောင်ရန်၊ နိုင်ငံခြားမှ တင်သွင်းရန်နှင့် နိုင်ငံခြားသို့ တင်ပို့ရန်။

(၁၀) အမျိုးအစား အမျိုးအမည်မရွေး အားလုံးသော လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ၊ ရေဒီယိုများ၊ ကက်ဆက်များ၊ ဗွီဒီယိုကက်ဆက်များ၊ ပြုံးတုစနစ် တယ်လီဗွီးရှင်းစက်များ၊ ကာရာအိုကေစက်များနှင့် အားလုံးသော ကလေးကစားစရာ ပစ္စည်းများကို လက်လီလက်ကား ဝယ်ယူရန်၊ ရောင်းချရန်၊ ထုတ်လုပ်ရန်၊ ဖြန့်ဖြူးရန်၊ သယ်ယူပို့ဆောင်ရန်၊ သိုလှောင်ရန်၊ ပြည်ပမှ တင်သွင်းရန်၊ ပြည်ပသို့ တင်ပို့ရန်နှင့် ကော်မရှင်စား၊ ကိုယ်စားလှယ်အဖြစ် ဆောင်ရွက်ရန်။

(၁၁) ကွန်ပျူတာ အသုံးချရေးနှင့် ကွန်ပျူတာ နည်းပညာနှင့် စပ်လျဉ်းသည့် ကျွမ်းကျင်မှု သင်တန်းများကို တည်ထောင်ဖွင့်လှစ်ရန်နှင့် ကွန်ပျူတာ စာစီလုပ်ငန်းများ တည်ထောင်ရန်အပြင် ကွန်ပျူတာများ၊ ကွန်ပျူတာ အချက်အလက် ဒေတာများ၊ ကွန်ပျူတာ ပစ္စည်းများနှင့် အခြားသော ကွန်ပျူတာနှင့် သက်ဆိုင်သည့် ကုန်ပစ္စည်းများကို တီထွင်ရန်၊ လက်လီလက်ကား ဝယ်ယူရောင်းချရန်၊ ထုတ်လုပ်ရန်၊ ဖြန့်ဖြူးရန်၊ သယ်ယူပို့ဆောင်ရန်၊ သိုလှောင်ရန်၊ နိုင်ငံခြားမှ တင်သွင်းရန်နှင့် နိုင်ငံခြားသို့ တင်ပို့ရန်။

(၁၂) ကက်ဆက်တိပ်ခွေ ကူးယူခြင်း၊ ဗီဒီယိုရိုက်ကူးခြင်းနှင့် ရုပ်ရှင်ရိုက်ကူးခြင်း၊ ယင်းတို့အားပြသခြင်း၊ စတူဒီယိုများ ဆောက်လုပ်ခြင်း၊ ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် တူရိယာပစ္စည်းများ လက်လီ လက်ကား ဝယ်ယူရောင်းချခြင်း၊ နိုင်ငံခြားမှ တင်သွင်းခြင်းနှင့် နိုင်ငံခြားသို့ တင်ပို့ခြင်း လုပ်ငန်းများကို လုပ်ကိုင်ရန်နှင့် အထက်တွင် မဖော်ပြခဲ့သော ယင်းလုပ်ငန်းများနှင့် ဆက်နွယ်သည့် ကျန်လုပ်ငန်းများအားလုံးကို လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၃) မျက်မှန်နှင့်ပတ်သက်သည့် ပစ္စည်းအားလုံး၊ လက်ပတ်နာရီအမျိုးမျိုး၊ ဘိုင်ကပ်နာရီအမျိုးမျိုး၊ ကင်မရာများ၊ ဖလင်များ၊ ဗွီဒီယိုတိပ်ခွေနှင့် ကက်ဆက်တိပ်ခွေများ၊ အမျိုးအစား အမျိုးအမည်မရွေး အားလုံးသော စက္ကူ (မှင်ခံစက္ကူ၊ ဖယောင်းစက္ကူ၊ ရေအိမ်သုံးစက္ကူ၊ ကဒ်ထူစက္ကူ အပါအဝင်)နှင့် ပျော့ဖတ်များ၊ စာအုပ်စာတမ်းအမျိုးမျိုးနှင့် စာရေးကိရိယာများကို လက်လီလက်ကား ရောင်းဝယ်ရန်၊ ထုတ်လုပ်ရန်၊ ဖြန့်ချိရန်၊ သယ်ယူပို့ဆောင်ရန်၊ သိုလှောင်ရန်၊နိုင်ငံခြားမှ တင်သွင်းရန်နှင့် နိုင်ငံခြားသို့ တင်ပို့ရန်။

(၁၄) ပိုးမွေးမြူရေးနှင့် ဝါ၊ ဂုန်လျှော်နှင့် လျှော်ပင်များ စိုက်ပျိုးရန်နှင့် ပိုးချည်၊ ဝါချည်၊ လျှော်ချည်ဖြင့် ပြုလုပ်ထားသော ပစ္စည်းများ၊ အထည်အလိပ်နှင့် အထည်အလိပ်ထွက်ကုန်များ၊ ဂုန်လျှော်နှင့် ဂုန်လျှော်ထွက်ကုန်များ၊ ပိုးထည်များကို လက်လီလက်ကား ဝယ်ယူရောင်းချရန်၊ နိုင်ငံခြားသို့ တင်ပို့ရန်၊နိုင်ငံခြားမှ တင်သွင်းရန်၊ ဖြန့်ဖြူးရန်နှင့် ထုတ်လုပ်ရန်။

(၁၅) သယ်ယူပို့ဆောင်ရေးလုပ်ငန်း (မီးရထားနှင့် လေကြောင်းမှအပ)၊ အငှားယာဉ် စင်းလုံးငှားခြင်းလုပ်ငန်း၊ သင်္ဘောပိုင်ရှင် လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၆) အမျိုးအစား အမျိုးအမည်မရွေး အားလုံးသော ကိုယ်စားလှယ် လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရန်နှင့် မည်သည့် ပြည်တွင်း ပြည်ပ ပုဂ္ဂိုလ်၊ လုပ်ငန်း၊ သို့မဟုတ် ကုမ္ပဏီအတွက်မဆို အတတ်ပညာရှင်ပိုင်းဆိုင်ရာ ကိုယ်စားလှယ်များ၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ စီးပွားရေးလုပ်ငန်း အတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အကိုင်ပင်ခံများအဖြစ် ဆောင်ရွက်ရန်။

(၁၇) နယ်စပ်ဒေသများအတွင်း အစိုးရက ခွင့်ပြုသည့် ကုန်ပစ္စည်းများကို နယ်စပ်ကုန်သွယ်ရေး အဖြစ် လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၈) အမျိုးသားရေး၊ ကုသိုလ်ရေး၊ ကောင်းမှုပြုရေးကိစ္စများ၊ အများပြည်သူနှင့် သက်ဆိုင်သော သို့မဟုတ် အသုံးဝင်သော ကိစ္စများ၊ ပြပွဲများ (သို့မဟုတ်) ကုမ္ပဏီ၏ ရည်ရွယ်ချက်များကိုဖြစ်စေ၊ အစုရှင်များ၏ အကျိုးကိုဖြစ်စေ တိုက်ရိုက်သော်လည်းကောင်း၊ သွယ်ဝိုက်၍ သော်လည်းကောင်း တိုးတက် ဖြစ်ထွန်းစေရန် အကြောင်းရှိသော အခြားကိစ္စများအတွက် ငွေထည့်ဝင်ခြင်း (သို့မဟုတ်) ငွေအတွက် အာမခံခြင်းပြုရန်။

(၁၉) ကုမ္ပဏီမှ သင့်လျော် လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

(၂၀) လက်ရှိပြဋ္ဌာန်းထားသည့် တရားဥပဒေများက ခွင့်ပြုထားသည့်အပြင် ဒါရိုက်တာအဖွဲ့က အချိန်ကာလ အားလျော်စွာ ဆုံးဖြတ်သည့် မည်သည့် စီးပွားရေးလုပ်ငန်းနှင့် ဝန်ဆောင်မှု လုပ်ငန်းမဆို လုပ်ကိုင်ရန်။

ခြွင်းချက်။ ။ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများနှင့် ညွှန်ကြားချက်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ၊ အခြားလုပ်ငန်းများကို ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊အမိန့်ကြော်ငြာစာများ၊ ညွှန်ကြားချက်များနှင့် လျော်ညီသင့်တော်ခြင်း၊ သို့မဟုတ် ခွင့်ပြုထားခြင်း ရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

၄။ အစုရှင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ ခွင့်ပြုရင်းနှီးငွေမှာ ကျပ် ၁၀၀,၀၀၀,၀၀၀/- (ကျပ် သန်းတစ်ရာ တိတိ) ဖြစ်၍ ကျပ် ၁၀,၀၀၀/- (ကျပ် တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ၁၀၀,၀၀၀ (တစ်သိန်း) ခွဲထားသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိ တရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက် [illegible]

အောက်တွင် အမည်၊ နိုင်ငံသား၊နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ်။ | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးကျော်နိုင်၊ (ကုန်သည်)<br>၃(က)၊ ကံ့ကော်မြိုင်လမ်း၊ ပါရမီ၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်။ | မြန်မာ<br>အမ်အမ်အို–<br>၂၃၃၄၅၃ | ၅၀ | (လက်မှတ်) |
| ၂။ | ဦးကျော်စိန်၊ (ကုန်သည်)<br>၁၁၊ ကုက္ကိုင်းရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်။ | မြန်မာ<br>အီး/အမ်ဒီဝိုင်<br>၃၅၂၀၁၅ | ၅၀ | (လက်မှတ်) |
| ၃။ | ထရော်ပီကယ်(လ်) ကွန်ပေ့(တ်) အင်တာနေရှင်နယ် လီမိတက်<br>ကိုယ်စားပြု ဒါရိုက်တာ–<br>ဦးခင်အောင်ထွန်း၊ (ဒါရိုက်တာ)<br>၅၄/ဂျေ၊ ရွှေတောင်ကြားလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်။ | ကုမ္ပဏီ မှတ်ပုံတင် အမှတ်–<br>၄၉၂/၉၂–၉၃<br>မြန်မာ<br>ဒီဂျီအင်န်–၀၀၀၆၀၅ | ၅၀ | (လက်မှတ်) |

ရန်ကုန်၊ နေ့စွဲ၊ ၁၉ ခုနှစ်၊ လ၊ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

(လက်မှတ်)

ဦးတင်ဝင်း

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ကက်ပါ အင်တာနေရှင်နယ် လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက် စေရမည်။

(၁) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(၂) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒိဘင်ချာ သို့မဟုတ် ဒိဘင်ချာစတော့(ခ်)တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် ကျပ် ၁၀၀,၀၀၀,၀၀၀/– (ကျပ် သန်းတစ်ရာတိတိ) ဖြစ်၍ ငွေကျပ် ၁,၀၀၀/– (ကျပ် တစ်ထောင်တိတိ)တန် အစုရှယ်ယာပေါင်း ၁၀၀,၀၀၀ (တစ်သိန်း) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက် များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာ များ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား [illegible]

၅။ အစုရှယ်ယာ လက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည် အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်၊ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ ပေးသွင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံ တောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦးထက် မနည်း၊ ( ၁၁ )ဦးထက် မများစေရ။

ပထမ ဒါရိုက်တာများသည်—

(၁) ဦးကျော်နိုင်၊
(၂) ဦးကျော်စိန်....နှင့်
(၃) ထရော်ပီကာယ်(လ်) ကွန်ဖေ့(တ်) အင်ထာနေရှင်နယ် လီမိတက်
ကိုယ်စားပြု ဒါရိုက်တာ—
ဦးခင်အောင်ထွန်း....တို့ ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်း ဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး( ၅၀ ) စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာ အဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေး အထမြောက်ရန် အနည်းဆုံးဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့် ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာ အားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုးသက်ရောက်စေရမည်။

ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ—

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့် စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကို မဆို ဝယ်ယူရန် သို့မဟုတ် အခြား နည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန် အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကို မဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်း သတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါ ချေးငှားသော ငွေကြေးများကို ပြန်လည် ပေးဆပ်ရန်အတွက် အာမခံများ ထားရှိရန် အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခု လက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများအနေဖြင့် သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ၊ ထိုကဲ့သို့ မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း နှံပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြား ငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကို မဆို ကိစ္စရပ် အားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာ ရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကို မဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန် အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူကြေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၀၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလ အားလျော်စွာ မြှုပ်နှံထားသော ငွေကို ပြန်လည် ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ်ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့် ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်း၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့် အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကို မဆို အတိအကျ ဆောင်ရွက်ခဲ့သည့် လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ၊ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့် ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စား ဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် ဆက်နွှယ်သော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုး

### အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကို ဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံး တစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေ အစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့် အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ်အစည်းအဝေး စတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အစုရှင် အရေအတွက် မတက်ရောက်သော မည်သည့် သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်း မပြုရ။ ဤတွင် အခြားနည်း သတ်မှတ်ပြဋ္ဌာန်းထားခြင်းမရှိလျှင် ထုတ်ဝေထားသည့် မတည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေး အထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

### အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာ နှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြား မခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

### ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေ မန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြား အရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည် ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြား အသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေ မန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာ လုပ်ငန်း လည်ပတ်မှု အားလုံးအတွက် တာဝန် ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအား တာဝန်ခံ၍ ဆောင်ရွက်ရမည်။

### ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့် အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်း ရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ် အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြား နေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

### စာရင်းစစ်

### နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့် အစုရှင်ထံသို့ မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာကိုက်ခ ကြို့တင်ပေးထား၍ ၎င်းအစုရှင်က မှတ်ပုံတင်လိပ်စာအဘိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်း အားဖြင့် ပေးပို့နိုင်သည်။

### တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာ ထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြို့တင်ပေးအပ်ထားသည့် ခွင့်ပြုချက်ပြင့်မှတစ်ပါး၊ ထို့ပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့် အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းကိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆(ဂ)တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိ တရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြား အရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ ဖြစ်စေ၊ ထိုတာဝန်ဝတ္တရားများနှင့် စပ်ဟျဉ်း၍ ဖြစ်စေ ကျခံခဲ့ရသည့် စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့် ရှိစေရမည်။

### ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

အောက်တွင် အမည်၊ နိုင်ငံသား၊နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ဆိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ညှိတွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ်၊ | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁၊ | ဦးကျော်နိုင်၊ (ကုန်သည်)<br>၃(က)၊ ကံ့ကော်မြိုင်လမ်း၊ ပါရမီ၊<br>ရန်ကင်းမြို့နယ်၊ ရန်ကုန်။ | မြန်မာ<br>အမ်အမ်အို–<br>၂၃၃၄၅၃ | ၅၀ | |
| ၂။ | ဦးကျော်စိန်၊ (ကုန်သည်)<br>၁၁၊ ကုက္ကိုင်းရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်။ | မြန်မာ<br>အီး/အမ်ဒီဝိုင်<br>၃၅၂၀၁၅ | ၅၀ | |
| ၃။ | အဒေါ်ဗ်ကယ်(လ်) ကွန်ဖော့(တ်) အင်တာနေရှင်နယ် လီမိတက်<br>ကိုယ်စားပြု ဒါရိုက်တာ–<br>ဦးခင်အောင်ထွန်း၊ (ဒါရိုက်တာ)<br>၅၄/၈၅၊ ရွှေတောင်ကြားလမ်း၊ ဗဟန်းမြို့နယ်၊<br>ရန်ကုန်။ | ကုမ္ပဏီ မှတ်ပုံတင်<br>အမှတ်–<br>၄၉၂/၉၂–၉၃<br>မြန်မာ<br>ဒီဂျီအင်န်–၀၀၀၆၀၅ | ၅၀ | |

ရန်ကုန်၊ နေ့စွဲ ၁၉ ခုနှစ်၊ လ၊ ရက်။

အထက်ပါ သက်သေရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

စာရင်းစစ်

ဦးထွန်းရင်

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

# KAPPA INTERNATIONAL LIMITED

I. The name of the Company is 'KAPPA INTERNATIONAL LIMITED'.

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as follows:-

(1) To carry on the following business either solely on its own or in joint-venture, co-operation or co-partnership with any foreign or local enterprises:-

(*a*) business of importers, exporters, industrialists, general merchants, consignees and consignors; wholesalers and retailers, stockists, warehouse-men, brokers, shippers of goods by sea or land, commission agents, freight forwarding and clearing agents relating to all kinds of commodities;

(*b*) business of growing, producing, harvesting, preserving, packaging, buying and selling wholesale or retail and to mill, manufacture, distribute, transport, store, export and import agricultural and farm produces such as ground nut, sessamum, rubber, all kinds of pulse and beans, tobacco, cashew, tapioca, food grains, roots and tubers, seeds, fruits and horticulture crops;

(*c*) business of taking on lease, felling, extracting, milling, manufacturing, preserving, seasoning, marketing and exporting of timber, such as hard wood, soft wood, round logs (excluding teak), conversions, mosaic flooring, plywood, cane, cane-wares and other forest products;

(*d*) business of livestock breeding, processing and canning of livestock products and to buy, sell, distribute, transport, store or import, export above mentioned products;

(*e*) business of buying and selling wholesale or retail, preserve, mill, manufacture, distribute, transport, store and export marine products, such as, fresh, dried or frozen fresh water and sea water fish and prawns, shrimp paste and sauce, fish paste and sauce,

(*f*) business of producing, buying and selling wholesale or retail and to import and export fishing nets, fishing-lines, fishing-rod, ropes and other related equipment and materials which are necessary for fishing operation;

(*g*) business of producing, buying and selling wholesale or retail of natural fertilizer, chemical fertilizer, insecticide and animal feeds;

(*h*) business of producing, buying and selling wholesale or retail and to import and export *any and all kinds of plastic and plastic* materials, rubber bands, rubber-sole, tarpaulin and other related plastic and rubber products;

(*i*) business of importers, exporters, wholesalers and retail vendors and act as commission agent of machines, motor-cars, buses, trucks, trailers, motor cycles, bicycles, tyres and spares of all kinds and types, made by various countries whether brand new, used or reconditioned;

(*j*) business of producing, buying and selling of various kinds of handicrafts, wood carvings, paintings and lacquerwares and furniture of all sorts;

(*k*) business of printing and publishing of any and all kinds of book, journal, newspaper, magazine and advertising and advertising agency business in the Union of Myanmar and outside the Union of Myanmar.

(*l*) business of manufacturers and dealers of stone, sand, lime, bricks, corrugated iron sheets, plain sheets, tiles, glass, iron bars, paints, timber (other than teak), hardwares and other building materials;

(*m*) business of opening and operating hotels, motels, cafe shops, bars, restaurants, super markets, mini markets, stores and other sundry shops, recreation centres, road-houses, holiday camps, caravan sites, apartment-house keepers, suppliers of foodstuffs and provisions, purveyors of entertainments of all kinds;

(*n*) business of buying and selling hotel supplies materials such as, crockery, cutlery and other related tools and equipments.

(*o*) business of providing hotel catering services, entertainments and other related services of hotel industry.

(2) To set up factories and plants for manufacturing and marketing locally and abroad of iron, steel and metal products of all kinds and other commodities decided and agreed by the Board of Directors.

(3) To lease, renovate and operate the government factories, workshops and plants for manufacturing commodities and to sell wholesale, retail and distribute, such products locally and abroad.

(4) To carry on the business of production, marketing (local and abroad) and transportation of industrial and construction substances such as sandstone, limestone, gypsum and quarry with the permission of the authority concerned.

(5) To buy and sell wholesale or retail, mill, manufacture, distribute, import, store or export thanakhar (in various form, such as wet,

To contract and undertake the following businesses:-

(a) civil engineering, electrical engineering, mechanical engineering, architecture, interior and exterior designing works and other construction works in general;

(b) investigation, research, planning, design, supervision, procurement, technical guidance, management and consulting works on construction projects, industrial and other comprehensive engineering works;

(c) land development, landscaping, construction of residential, public garden, recreation centre and other buildings; and erection, maintenance, renovation, demolition works of roads, bridges, waterways, dams, mills, factories and plants etc.; purchase and sale, leasing, brokerage, manaement and appraisal of real estate.

(d) inventing, manufacturing, selling and leasing of construction materials;

(e) feasibility studies, cost estimation, evaluation studies on new industrial and commercial projects.

To buy and sell wholesale or retail, mill, manufacture, distribute, transport, store, act as agents, export or import of the following commodities:-

(a) Animals and Animal by-products.

(b) Raw materials and finished goods manufactured by factories, mills or workshops owned by the State, co-operatives, joint-venture corporations or private enterprises.

(c) Ceramic products and cement.

(d) Household, personal and toilet goods.

(e) Tin provisions, etc.

(f) Milk and Dairy food, foodstuffs, honey and soft drinks.

(g) Tea leaves (black and green), coffee beans and pure coffee.

(h) All kinds of machinery parts, machine tools and equipments.

To carry on the business of exporters, importers, manufacturers, wholesale and retail vendors of any and all kinds of perfumeries and toilet requisites.

To buy and sell wholesale or retail, manufacture, distribute, transport, store, import, export medicines (for human and animal), indigenous medicines, pharmaceutical raw materials, chemicals and industrial raw materials:

To buy and sell wholesale and retail, manufacture, distribute, transport, store, import, export and act as commission agent of any and all kinds of electrical and electronic goods, radios, cassettes, video cassettes, television sets, karaoke and all kinds of toys.

To establish centres to conduct technical training courses relating to computer application and computer technology and to set up computer desktop type setting centres; and to invent, buy and sell wholesale or retail, manufacture, distribute, transport, store and import,

(12) To carry on the business of cassette tape recording, making video films and movie films and screening them; building studios and cinema halls; and to buy and sell wholesale or retail, import, export of musical instruments and to carry out all other related business not otherwise mentioned above.

(13) To buy and sell wholesale or retail, manufacture, distribute, transport, store, import, export all kinds of watches and clocks, cameras, films, video tapes and cassette tapes and any and all kinds of papers (including carbon papers, stencil papers, toilet papers, cards) and pulps, all kinds of books, printed matters and stationeries.

(14) To culture silkworms and grow cotton, jute and fibrous plants and to buy and sell wholesale or retail, export, import, distribute and produce silk thread, cotton yarn, fibrous materials, textile products, jute and jute products and silk.

(15) To carry on the business of transportation (except railways and airways), car rental service and ship owners.

(16) To carry on any and all kinds of agency business and to act as technical representatives, technical consultants, business consultants and management consultants of any local and foreign person, firm or company.

(17) To carry on border trade business within the bound of border areas on commodities permitted by the Government.

(18) To subscribe or guarantee money for any national, charitable, benevolent, public, general or useful object or for any exhibition, or any purpose which may be considered to promote directly or indirectly theobjects of the Company or the interests of its members.

(19) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

(20) To carry on any economic activity or services permitted by the laws for the time being in force and duly decided upon by the Board of Directors from time to time.

***PROVISO:-*** *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders ond Notificationsof the Union of Myanmar for the time being in force.*

The liability of the members is limited.

The Authorised Capital of the Company is Ks. 100,000,000/- (Kyats One Hundred Million Only) divided into 100,000 (One Hundred Thousand) shares of Ks. 10,000/- ( Kyats Ten Thousand Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

We, the several persons whose names, nationality, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C. No. | Number of Shares Taken | Signatures |
|---|---|---|---|---|
| 1. | U Kyaw Ni Khin, (Merchant)<br>3(A), Gantgaw Myaing Street,<br>Parami, Yankin Township, Yangon. | Myanmar<br>MMO....277457 | 50 | |
| 2. | U Kyaw Sein, (Merchant)<br>11, Kokkine Yeiktha Street,<br>Bahan Township, Yangon. | Myanmar<br>E/MDY-352015 | 50 | |
| 3. | **TROPICAL COMFORT INTERNATIONAL LIMITED**<br>*Represented by its Director:....*<br>U Khin Aung Htun, (Director)<br>54/J, Shwe Taung Kyar Street,<br>Bahan Township, Yangon. | Incorporation Certificate No. 492/92-93<br><br>Myanmar<br>DGN....000605 | 50 | |

Yangon Dated the day of 19

It is hereby certified that the persons mentioned above put their signatures in my presence.

U Tun Yin
B.Com (A.B), CPA

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

# KAPPA INTERNATIONAL LIMITED

The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

The Company is to be a Private Limited Company and accordingly following provisions shall have effect:-

(1) *The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

(2) *Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

The Authorised Capital of the Company is Ks. 100,000,000/- (Kyats One Hundred Million Only) divided into 100,000 (One Hundred Thousand) shares of Ks. 1,000/- (Kyats One Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 11 ).

The First Directors shall be:-

(1) U Kyaw Ni Khin,
(2) U Kyaw Sein....and
(3) TROPICAL COMFORT INTERNATIONAL LIMITED.
*Represented by its Director;....*
U Khin Aung Htun.

The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

The qualification of a Director shall be the holding of at least (50) shares in the Company in his or her own name and it shall be his duty to comply with the provision of Section 85 of the Myanmar Companies Act.

The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting to the Directors, duly called, held and constituted.

### POWERS AND DUTIES OF DIRECTORS

Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contracts or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend or abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws, for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organisation of local and

## GENERAL MEETINGS

A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceding general meeting) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Members holding not less than 50 percent of the issued shares capital (and not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

The Directors shall cause to be kept proper books of account with respect to:-

- *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*
- *all sales and purchases of goods by the Company;*
- *all assets and liabilities of the Company.*

The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

လျှို့ဝှက်

နောက်ဆက်တွဲ( ၁၁–၁ )

# Minor Myanmar Co., Ltd.

## Internal Rate of Return ( IRR )

| Sr.No. | Net Cash Flow ( NCF ) | 20% | | 10% | |
|---|---|---|---|---|---|
| | | DF | DCF | DF | DCF |
| 32 | 620726 | 0.00351 | 2179 | 0.05210 | 32339 |
| 33 | 620726 | 0.00293 | 1816 | 0.04736 | 29399 |
| 34 | 620726 | 0.00244 | 1513 | 0.04306 | 26726 |
| 35 | 620726 | 0.00203 | 1261 | 0.03914 | 24297 |
| 36 | 620726 | 0.00169 | 1051 | 0.03558 | 22088 |
| 37 | 620584 | 0.00141 | 876 | 0.03235 | 20075 |
| 38 | 620584 | 0.00118 | 730 | 0.02941 | 18250 |
| 39 | 620584 | 0.00098 | 608 | 0.02673 | 16591 |
| 40 | 620584 | 0.00082 | 507 | 0.02430 | 15083 |
| 41 | 620584 | 0.00068 | 422 | 0.02209 | 13712 |
| 42 | 620428 | 0.00057 | 352 | 0.02009 | 12462 |
| 43 | 620428 | 0.00047 | 293 | 0.01826 | 11329 |
| 44 | 620428 | 0.00039 | 244 | 0.01660 | 10299 |
| 45 | 620428 | 0.00033 | 204 | 0.01509 | 9363 |
| 46 | 620428 | 0.00027 | 170 | 0.01372 | 8512 |
| 47 | 620256 | 0.00023 | 141 | 0.01247 | 7736 |
| 48 | 620256 | 0.00019 | 118 | 0.01134 | 7033 |
| 49 | 620256 | 0.00016 | 98 | 0.01031 | 6393 |
| 50 | 620256 | 0.00013 | 82 | 0.00937 | 5812 |
| 51 | 620256 | 0.00011 | 68 | 0.00852 | 5284 |
| | | | (750,095) | | 2,431,333 |

IRR = 10 + 10 (2431333/3181428)

IRR = 10 + 10 (0.764)

= 10 + 7.64

= 17.64 %

လျှို့ဝှက်

MINOR MYANMAR Company Limited

No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar.

Phone : +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: +95 1 502 906, 502 907.

## CSR ရံပုံငွေထားရှိမည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသောကုမ္ပဏီမတို့၏ **Minor Myanmar Co., Ltd** သည်ရှမ်းပြည်နယ်(တောင်ပိုင်း)၊တောင်ကြီးခရိုင်၊ညောင်ရွှေမြို့နယ်၊အင်းလေးကန်တောရိုင်းတိရစာန်သဘာဝနယ်မြေအတွင်းရှိ အင်ကြင်းကုန်းကျေးရွာမြေ (၅.၃၃)ဧကတွင် B.OT စနစ်ဖြင့်နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းအားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်း၏နှစ်စဉ်အမြတ်ငွေမှ၂%အား**CSR** ရံပုံငွေအဖြစ်ထားရှိသုံးစွဲမည်ဖြစ်ကြောင်းဝန်ခံ ကတိပြုပါသည်။၎င်း ၂% ၏၂၀%အားပညာရေးအတွက်လည်ကောင်း၊ ၂၅%အားကျန်းမာရေးအတွက်၎င်း၊၂၀%အားလမ်းပမ်းဆက်သွယ်ရေးအတွက်နှင့်ကျန်၂၅%အားလူမှုရေးနှင့်ပတ်ဝန်း ကျင်ထိန်းသိမ်းရေးလုပ်ငန်းများအတွက်သုံးစွဲရန်လျာထားပါကြောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
အုပ်ချုပ်မှုဒါရိုက်တာ
Minor Myanmar Co., Ltd

MINOR MYANMAR Company Limited
No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar.
Phone : +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: +95 1 502 906, 502 907.

## တည်ဆောက်လုပ်ကိုင်လည်ပတ်မည့်ကာလအား ဝန်ခံကတိပြုခြင်း

မြန်မာနိုင်ငံကုမ္ပဏီများဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသောကျွန်မတို့၏ Minor Myanmar Co.,Ltd. သည်ရှမ်းပြည်နယ်(တောင်ပိုင်း)၊တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ အင်းလေးကန်တောရိုင်းတိရစ္ဆာန်သဘာဝနယ်မြေ အတွင်းရှိ အင်ကြင်းကုန်းကျေးရွာ မြေ ( ၅ .၃၃)ဧကတွင် B.O.T စနစ်ဖြင့် အဆင့်မြင့်ဟိုတယ်လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်မည်ဖြစ်ပါသည်။

Minor Myanmar Co.,Ltd အဆိုပါလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရရှိသည့်နေ့မှ အနည်းဆုံး နှစ်(၅၀) နှင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂)ကြိမ်အပါအဝင် စုစုပေါင်း နှစ်(၇၀) မပျက်မကွက်လည်ပတ်ဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
အုပ်ချုပ်မှုဒါရိုက်တာ
Minor Myanmar Co., Ltd

MINOR MYANMAR Company Limited

No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar

Phone +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax +95 1 502 906, 502 907.

<u>ဝန်ထမ်းများ၏ ဝင်ငွေခွန်ပေးဆောင်ရေးနှင့်စပ်လျဉ်း၍ဝန်ခံကတိပြုခြင်း</u>

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသောကျွန်မတို့၏ **Minor Myanmar Co., Ltd** သည်ရှမ်းပြည်နယ်(တောင်ပိုင်း)၊တောင်ကြီးခရိုင်၊ညောင်ရွှေမြို့နယ်၊အင်းလေးကန်တောရိုင်းတိရစာန်သဘာဝနယ်မြေအတွင်းရှိ အင်ကြင်းကုန်းကျေးရွာမြေ (၅.၃၃)ဧကတွင် B.OT စနစ်ဖြင့်နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းအားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

မိမိတို့ကုမ္ပဏီဝန်ထမ်းများ၏ လစာငွေ(၁)နှစ်လျှင်ကျပ် (၂,၀၀၀,၀၀၀/–)နှင့်အထက်ရရှိသောဝန်ထမ်းများ၏ ဝင်ငွေခွန်ကိုသတ်မှတ်ထားသောနှုန်းထားများအတိုင်းပေးဆောင်ရေးကုမ္ပဏီမှတာဝန်ယူပေးဆောင်သွားမည်ဖြစ် ကြောင်း ဝန်ခံ ကတိပြုပါသည်၊

လေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
အုပ်ချုပ်မှုဒါရိုက်တာ
**Minor Myanmar Co., Ltd**

MINOR MYANMAR Company Limited
No 27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar
Phone +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax +95 1 502 906, 502 907.

<u>လျှပ်စစ်ဓါတ်အားသုံးစွဲခြင်းနှင့်စပ်လျှင်း၍ဝန်ခံကတိပြုခြင်း</u>

မြန်မာနိုင်ငကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသောကျွန်မတို့၏ Minor Myanmar Co.,Ltd သည်ရှမ်းပြည်နယ်(တောင်ပိုင်း)၊တောင်ကြီးခရိုင်၊ညောင်ရွှေမြို့နယ်၊အင်းလေးကန်တောရိုင်းတိရစာန်သဘာဝနယ်မြေအတွင်းရှိအင်ကြင်းကုန်းကျေးရွာ မြေ (၅.၃၃)ဧကတွင် B.OT စနစ်ဖြင့်နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှုဥပဒေအရဆောင်ရွက်မည်ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းအတွက်လိုအပ်သောလျှပ်စစ်ဓါတ်အားကိုမဟာဓါတ်အားလိုင်းမှရယူဆောင်ရွက်သွားမည်ဖြစ်ပြီးမရရှိသည့်အချိန်တွင်ကိုယ်ပိုင်မီးစက် (Generator-750/350/250/150KVA) ကိုအသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
အုပ်ချုပ်မှုဒါရိုက်တာ
**Minor Myanmar Co., Ltd**

MINOR MYANMAR Company Limited
No.27 Inya Myaing Road, Bahan Township, Yangon, Union of Myanmar
Phone : +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: + 95 1 502 906, 502 907.

<u>ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေအစီအမံများ</u>

၂၀၁၄ ခုနှစ်ဖွန်လ (၃၀)ရက်

ကျွန်မတို့၏ **Minor Myanmar Co., Ltd.** ရှိဝန်ထမ်းများ၏ သက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေးအတွက်ရက်မှန်ကြေး၊အချိန်ပိုကြေးနှင့်နှစ်သစ်ကူးကာလများတွင်ဝန်ထမ်းများလူတန်းသုံးစွဲနိုင်ရေးနှစ်သစ်ကူးအပိုဆုကြေးများထုတ်ပေးသွားမည်ဖြစ်ပါသည်၊ဘာသာရေးနှင့် ဆက်စပ်၍ နေ့ ကြီးရက်ကြီးများတွင်ကုသိုလ်ကောင်းမှုပြုနိုင်ရန်အလုပ်ပိတ်ရက်ပေးခြင်းနှင့်ငှင်းပြင်ဝန်ထမ်းများ၏လုပ် ရည်ကိုင်ရည်ပေါ်မူ တည်ပြီးလုပ်သက်ဆုကြေးများ၊ အပိုဆောင်းဆုကြေးများနှင့်အချိန်ပိုကြေးများပေးအပ် သွားမည်ဖြစ်ပါသည်။

ဝန်ထမ်းများကျန်းမာရေးအတွက် ကျန်းမာရေးဝန်ထမ်းထားရှိသွားမည်ဖြစ်ပြီးအရေးပေါ်ဆေးကုသရေးနှင့်လိုအပ်သောဆေးဝါးများထားရှိပေးသွားမည်ဖြစ်ပါသည်၊မြို့နယ်လူမှုဖူလုံရေးအသင်း၏ အသင်းဝင် ရောက်စေမည်ဖြစ်ပြီးနာမကျန်းပါကရသင့်သည့်ဝန်ထမ်းအခွင့်အရေးများအပြည့်အဝခံစားခွင့်ပေးပြီးဆေးကုသမှုခံယူစေမည်ဖြစ်ပါသည်၊ကုမ္ပဏီမှဝန်ထမ်းများ၏စားသောက်ရေးကိုတာဝန်ယူသွားမည် ဖြစ်ပါသည်။

ဝန်ထမ်းများ၏တကိုယ်ရေ သန့်ရှင်းရေးများအတွက်ရေလုံလောက်စွာရရှိရေးစီစဉ်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်၊တည်ဆောက်ရေးလုပ်ငန်းခွင်မှထွက်ရှိလာသောအမှိုက်သရိုက်များအား သက်ဆိုင်ရာစည်ပင်သာယာကော်မတီ ၏အစီအမံများအတိုင်းလိုက်နာစွန့်ပစ်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
အုပ်ချုပ်မှုဒါရိုက်တာ
Minor Myanmar Co., Ltd

MINOR MYANMAR Company Limited
No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar
Phone +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: +95 1 502 906, 502 907.

## ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှု အခြေအနေတင်ပြခြင်း

ကျွန်မတို့၏ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်မတို့၏ Minor Myanmar Co.,Ltd မှ နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ BOTစနစ်ဖြင့်လုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်သန့်စင်ခန်းများအား အလုံအလောက်ထားရှိခြင်း၊ အမှိုက်ပုံများထားရှိခြင်း၊ လုပ်ငန်းခွင်ပတ်ဝန်းကျင်အား ဝန်ထမ်းအင်အားအပြည့်ဖြင့် အချိန်ပြည့်သန့်ရှင်းရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသံများမရှိအောင် ရေနုတ်မြောင်းများကို ရေစီး ရေလာကောင်းမွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

ဆောက်လုပ်ရေးလုပ်ငန်းများမှထွက်ရှိသည့်စွန့်ပစ်ပစ္စည်းများ၊ မြေစာများနှင့် အခြားစွန့်ပစ်ပစ္စည်းများအား ပတ်ဝန်းကျင်မထိခိုက်စေရန်နှင့် စွန့်ပစ်ပစည်းအမျိုးအစားအလိုက် သတ်မှတ်နေရာများတွင်စနစ်တကျစွန့်ပစ်နိုင်ရန် စီစဉ်ထားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ရေဆိုးများအား သန့်စင်အောင်နိုင်ငံတကာမှသတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ သန့်စင်ပြီးမှသာစွန့်ပစ်ခြင်း၊ အမှိုက်များကို စနစ်တကျစွန့်ပစ်ခြင်းနှင့် သက်ဆိုင်ရာအဖွဲ့အစည်းများမှ ချမှတ်ထားသောစည်းမျဉ်းစည်းကမ်းများ ကို လိုက်နာမည်ဖြစ်ကြောင်းနှင့်ပတ်ဝန်းကျင်စီမံချက်ရေးဆွဲဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
အုပ်ချုပ်မှုဒါရိုက်တာ
Minor Myanmar Co., Ltd

MINOR MYANMAR Company Limited
No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar.
Phone . +95 1 502 901, 502 902, 502 903, 502 904, 502 905    Fax: + 95 1 502 906, 502 907.

**ရေဆိုးစွန့်ပစ်မှုအစီအစဉ်နှင့် Waste Water Treatment Plant တပ်ဆင်ထားမှုတင်ပြခြင်း**

ကျွန်မတို့၏ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော Minor Myanmar Co.,Ltd မှ နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းတည်ဆောက်လုပ်ကိုင်ရာတွင် ရေဆိုးများအားကမ္ဘာ့ကျန်းမာရေးအဖွဲ့အစည်းမှသတ်မှတ်ပြဋ္ဌာန်းထားသော ခေတ်မီနည်းစနစ်များသုံးစွဲ၍နောက်ဆုံးပေါ်စက်ပစ္စည်းကိရိယာများကိုသုံးစွဲပြီးရေဆိုးများကိုအများပြည်သူ များအားအန္တရာယ်မပြုနိုင်အောင် စနစ်တကျပြုလုပ်ဆောင်ရွက်ပြီးမှသာရေမြောင်းများအတွင်းသို့စွန့်ပစ် မည်ဖြစ်ပါသည်။

ဟိုတယ်လုပ်ငန်းဝန်ဆောင်မှုလုပ်ငန်းမှထွက်ရှိလာမည့်စွန့်ပစ်ပစ္စည်း၊အရည်နှင့်စွန့်ပစ်အဆီများအားမြစ်ချောင်း၊ကန်အတွင်းသို့တိုက်ရိုက်စွန့်ပစ်မှုမရှိဘဲသန့်စင်ပြီးမှသာလျှင်စွန့်ပစ်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
အုပ်ချုပ်မှုဒါရိုက်တာ
Minor Myanmar Co., Ltd

MINOR MYANMAR Company Limited
No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar
Phone +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax +95 1 502 906, 502 907.

## မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ်တင်ပြခြင်း

ကျွန်မတို့၏ မြန်မာနိုင်ငံကုမ္ပဏီများဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော Minor Myanmar Co.,Ltd. မှ ဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက် ရာတွင် ခေတ်မီမီးသတ်ကာကွယ်ရေးစနစ်များကို ထည့်သွင်းအသုံးပြု၍ ဟိုတည်တည်ဆောက်သွားမည်ဖြစ်ကြောင်းနှင့် ဟိုတယ်မြေနေရာတွင် မီးဘေးကြိုတင်ကာကွယ်မှုအနေဖြင့် ရေဂါလံ (၁၀၀၀၀) ဆန့် မြေအောက်ရေကန်အား ထည့်သွင်းတည်ဆောက်ထားပါမည်။

၄င်းအပြင် ဟိုတယ်အတွင်းသတ်မှတ်နေရာများတွင် မီးသတ်ဆေးဗူးများချိတ်ဆွဲထားရှိမည့်အပြင် မီးလောင်မှုဖြစ်ပွားပါက အလိုအလျောက် ပေါက်ကွဲမီးငြိမ်းစေမည့် Auto Fire Ball , Sprinkler Smoke Detector များတပ်ဆင်ခြင်းတို့နှင့် ဟိုတယ်ဝန်ထမ်းများအား မီးသတ်သင်တန်းများသို့စေလွှတ်ပြီး အရေးပေါ်အခြေအနေ တွင် မီးငြိမ်းသတ်နိုင်ရန် သင်တန်းများပေးသွားမည်ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
အုပ်ချုပ်မှုဒါရိုက်တာ
Minor Myanmar Co., Ltd

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၇၀ / နပတ( )

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ၊ မေလ ၂၃ ရက်

အကြောင်းအရာ။ **အင်းလေးကန်ဘေးမဲ့တောအတွင်းရှိ မြေငှားရမ်းခြင်းအတွက် နှစ်ရှည်မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)များအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန်ကိစ္စ**

ရည် ညွှန်း ချက် ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ်ရုံး၏ ၇-၅-၂၀၁၄ရက်စွဲပါစာအမှတ်၊ ဥယျာဉ်-ငွေ / အင်းလေး(ဟိုတယ်) ၆/၂၈၇၅ / ၂၀၁၄

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင် အင်းလေးကန်ဘေးမဲ့တောအတွင်းရှိ မြေငှားရမ်းခွင့်ရရှိထားသောဟိုတယ်(၁၀)လုံးအား နှစ်ရှည်မြေငှားစာချုပ်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့် ပြုရန်အတွက် AMATA INTERNATIONAL CO.,LTD၊ ASIA GREEN TRAVELS &TOURS CO.,LTD၊ SANCTUM INLE RESORT CO.,LTD၊ THAZIN GARDEN INTERNATIONAL TRADING CO.,LTD၊ KAPPA INTERNATIONAL CO.,LTD၊ ADVENTURE MYANMAR TOURS & INCENTIVES CO.,LTD၊ MINOR MYANMAR CO.,LTD၊ HTOO TRADING CO.,LTD နှင့်ရွှေအင်းသားကုမ္ပဏီလီမီတက်တို့နှင့် ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)များအပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာတွင် နှစ်ရှည်မြေငှားစာချုပ်ဖြင့် Amata Garden Resort Hotel Inle ကို ငှားရမ်းလုပ်ကိုင်ခွင့်ပြုရန် ဆောင်ရွက်မည့်ကုမ္ပဏီအား United International Group Limited ဟု ဖော်ပြထားပြီး စာချုပ်(မူကြမ်း) တွင် AMATA INTERNATIONAL CO.,LTD နှင့် ချုပ်ဆိုရန်ဖော်ပြထားရာ ကုမ္ပဏီအမည်ကွဲလွဲနေပါသဖြင့် ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။

၃။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း) ၁၀ ရပ်သည် ငှားရမ်းမည့်မြေဧရိယာနှင့် စာချုပ် ချုပ်ဆိုမည့်ကုမ္ပဏီများကွဲပြားခြားနားသော်လည်း စာချုပ် ပုံစံ တစ်မျိုးတည်းရေးသားပြုစုထားသဖြင့် တစ်ပေါင်းတည်းစိစစ်သုံးသပ်အကြံပြုအပ်ပါသည်။

၄။ ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း) ၁၀ရပ် အပေါ် ဥပဒေရှုထောင့်မှ လေ့လာ စိစစ်၍ အောက်ပါအတိုင်းသုံးသပ် အကြံပြုအပ်ပါ သည်-

(က) စာချုပ်(မူကြမ်း)များ၏အပိုဒ် ၁ ရည်ရွယ်ချက်၏အပိုဒ်ခွဲ ၁-၁ နှင့် ၁-၂၊အပိုဒ် ၃ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း၏အပိုဒ်ခွဲ ၃-၁၊အပိုဒ် ၅ အငှားချထားသည့် မြေနှင့် မြေငှားရမ်းခြင်း သက်တမ်းကာလ၏အပိုဒ်ခွဲ ၅-၁ တို့တွင် နောက်ဆက်တွဲ(က)၊ (ခ)၊ (ဂ) စသည်ဖြင့် ရည်ညွှန်းဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း) များ၏ပူးတွဲပါနောက်ဆက်တွဲများတွင် ရည်ညွှန်းအမှတ်စဉ် အက္ခရာများ ဖော်ပြပါရှိခြင်းမရှိပါသဖြင့် ပြန်လည်စိစစ်ဖော်ပြရန်နှင့် စာချုပ်ပါ စည်းကမ်းချက်၌ ကိုက်ညီရန် ဌာနမှတာဝန်ယူစိစစ်ရန်ဖြစ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)များ၏ အပိုဒ် ၁၂ အငှားချထားခြင်းခံရသူ၏တာဝန်ဝတ္တရားများ အပိုဒ်ခွဲ ၁၂-၁ ၊ အပိုဒ်ခွဲငယ်(ဂ) တွင် ပြောင်းလဲပြင်ဆင် ဆောက်လုပ်လိုပါက အငှားချထားသူထံပြန်လည်တင်ပြ၍ အတည်ပြုချက် ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုရမည်ဟုဖော်ပြထားရာ တင်ပြရန်အချိန်ကာလ ကန့်သတ်

ချက်နှင့် မည်ကဲ့သို့တင်ပြရမည်ကိုထည့်သွင်းဖော်ပြရန် သင့် မသင့်ဌာနမှ ပြန်လည်စိစစ်သင့်ပါ သည်၊

(ဂ) ထို့အပြင် စာချုပ်(မူကြမ်း)များ အပိုဒ်ခွဲ ၁၂-၁၊ အပိုဒ်ခွဲငယ်(ဆ)တွင် ဖော်ပြထားသည့် အငှားချထားခြင်းခံရသူမှ အေးဆေးစွာအသုံးပြုခွင့်ရရှိရေးကိစ္စမှာ အငှားချထားသူ၏တာဝန်ဖြစ်သဖြင့် အပိုဒ် ၁၁ အငှားချထားသူ၏ တာဝန်ဝတ္တရားများခေါင်းစဉ်အောက်သို့ ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)များပါ ကွက်လပ်များအား စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာ ဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(င) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့် အနည်းငယ် ပြင်ဆင်ပေးလိုက်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေ အကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ် များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြု ပါသည်။

၆။ သစ်တောဦးစီးဌာနနှင့် စာချုပ်ချုပ်ဆိုမည့် ကုမ္ပဏီများဖြစ်သော AMATA INTERNATIONAL CO.,LTD၊ ASIA GREEN TRAVELS &TOURS CO.,LTD၊ SANCTUM INLE RESORT CO.,LTD၊ THAZIN GARDEN INTERNATIONAL TRADING CO.,LTD၊ KAPPA INTERNATIONAL CO.,LTD၊ ADVENTURE MYANMAR TOURS & INCENTIVES CO.,LTD၊ MINOR MYANMAR CO.,LTD၊ HTOO TRADING CO.,LTD နှင့်ရွှေအင်းသားကုမ္ပဏီလီမိတက်တို့သည် ဥပဒေအရ

တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီများဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ် ရေးထိုးမည့်သူများသည် တရားဝင်လွှဲအပ်ခြင်းခံရသူများဟုတ် မဟုတ် စသည့်အချက်များနှင့် စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၇။ စာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံး သို့ မိတ္တူ(၃)စောင်စီပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၂၃/၅/၂၀၁၄

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
( မြသီလင်း ၊ဒုတိယညွှန်ကြားရေးမှူးချုပ် )

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

# ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ အင်းလေးကန်တောရှိုင်းတိရိစာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်း ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် Minor Myanmar Co.,Ltd တို့အကြားချုပ်ဆိုသည့်နှစ်ရှည်မြေငှားရမ်းခြင်း သဘောတူစာချုပ်

ဤပဋိညာဉ်စာချုပ် (နောင်တွင် သဘောတူစာချုပ် ဟု ခေါ်ဆိုရမည်) ကို ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ ၊( ) ရက်နေ့၌ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ နေပြည်တော်၊ ရုံးအမှတ်(၃၉)တွင် တည်ရှိသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနလက်အောက်ရှိ ဒေါက်တာညီညီကျော်၊ ညွှန်ကြားရေးမှူးချုပ်၊ ကိုယ်စားပြုသော သစ်တောဦးစီးဌာနမှ (နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများ နှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)ကတစ်ဖက်

နှင့်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ကုမ္ပဏီများအက်ဥပဒေအရ မှတ်ပုံတင်ဖွဲ့စည်းထားသော အများနှင့်မသက်ဆိုင်သော မြန်မာကုမ္ပဏီဖြစ်ပြီး ရှမ်းပြည်နယ်တောင်ပိုင်းတွင် တည်ရှိသည့် M Residence Inle ကိုယ်စားပြုသော ဒေါ်အေးအေးမြင့်၊ ဒါရိုက်တာ၊ Minor Myanmar Co.,Ltd ( နောင်တွင် "အငှားချထားခြင်းခံရသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက ၎င်းအား ဆက်ခံခွင့်ရှိသူများ၊ ဥပဒေအရ လွှဲပြောင်းခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟု မှတ်ယူရမည်) ကဤစာချုပ်ကို အခြားတစ်ဖက်တို့သည် သဘောတူစာချုပ်ကို အောက်ပါစည်းကမ်းချက်များနှင့်အညီ ပြုလုပ်ချုပ်ဆိုကြပါသည်။

## အပိုဒ်၊၁– ရည်ရွယ်ချက်

၁–၁ အငှားချထားသူ သည် မိမိတရားဝင်အမည်ပေါက် ပိုင်ဆိုင်သော(၅.၃၃)ဧကအား တရားဝင်ပိုင်ဆိုင်သူဖြစ်ပါသည်။ အငှားချထားသည့်မြေနှင့်စပ်လျဉ်း၍ မြေပုံနှင့်မြေပိုင်ဆိုင်မှုအထောက်အထားများကို နောက်ဆက်တွဲ(က) ဖြင့် ပူးတွဲဖော်ပြပါသည်။

၁–၂ အငှားချထားခြင်းခံရသူ သည် အငှားချထားသူ ပိုင် အငှားချထားသည့်မြေကိုနှစ်ရှည်ငှားရမ်းပြီး အခန်း(၁၃၀)ပါ ဟိုတယ်ကို နောက်ဆက်တွဲ(ခ)ဖြင့် ပူးတွဲဖော်ပြထားသော အကွက်ချပုံစံ (Site Plan) နှင့်အဆောက်အဦအမျိုးအစားအလိုက် အရေအတွက်နှင့် ပုံစံ (Drawing) များအတိုင်း နိုင်ငံတကာအဆင့်မီဟိုတယ်ဆောက်လုပ်ရန်ဖြစ်သည်။

## အပိုဒ်၊၂– ရင်းနှီးမြှုပ်နှံမှု

၂–၁ အငှားချထားခြင်းခံရသူ သည် အဆိုပြုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာကျပ်သန်း(၄၀၀၀/ ကျပ်သန်းပေါင်း လေးထောင်) ထည့်ဝင်၍ လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။

အပိုဒ်၊၃- ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း

၃-၁ ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုး ချုပ်ဆိုကြသည့်စာချုပ်ဝင်များအနက် အငှားချထားသူ သည် ငှားရမ်းမည့် (၅.၃၃)ဧကကို တရားဝင်ပိုင်ဆိုင်ကြောင်းနှင့် ၂၀၁၃ ခုနှစ်၊ ဩဂုတ်လ(၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ (၁၇/၂၀၁၃) ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရ လုပ်ထုံးလုပ်နည်းနှင့်အညီ နှစ်ရှည်ငှားရမ်းရန်ခွင့်ပြုမိန့်ရရှိပြီးဖြစ်ပါသည်။ နောက်ဆက်တွဲ(ဂ)

၃-၂ အငှားချထားခြင်းခံရသူ သည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန်ငွေကြေးအင်အား ပြည့်စုံသူဖြစ်ကြောင်း အာမခံပါသည်။ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးရန် ဥပဒေအရလုပ်ပိုင်ခွင့်ရှိသော အခွင့်အာဏာရှိကြသူများဖြစ်ကြောင်း အသီးသီးကိုယ်စားပြု အာမခံကြပါသည်။

အပိုဒ်၊ ၄- ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၄-၁ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာနအာဏာပိုင် အဖွဲ့အစည်းများထံမှ ရယူရန် လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များရရှိပြီးမှသာ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်။

အပိုဒ်၊ ၅- အငှားချထားသည့်မြေနှင့် မြေငှားရမ်းခြင်းသက်တမ်းကာလ

၅-၁ အငှားချထားသည့်မြေတည်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ကိုယ်စား၊ ပတ်ဝန်းကျင်ထိန်းသိမ်း ရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနက စီမံခန့်ခွဲပိုင်ခွင့်ရှိသော၊ သဘာဝနယ်မြေတစ်ခုဖြစ်သည့် အင်းလေးကန်တောရိုင်းတိရစာန်ဘေးမဲ့တောဟု သတ်မှတ်ထားသောမြေရှိ နောက်ဆက်တွဲ(က)ဖြင့် ဖော်ပြထားသော မြေပုံတွင်အမှတ်အသားပြထားသည့် ဘောင်အတွင်းရှိမြေဧရိယာ (၅ .၃၃)ဧက ဖြစ်ပါသည်။

၅-၂ ဤသဘောတူစာချုပ်ပါ မြေငှားရမ်းခြင်းသက်တမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး(၅၀)နှစ်ဖြစ်ပြီး တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂)ကြိမ်တိုးခွင့်ရှိသည်။

၅-၃ အငှားချထားသည့်ကာလတိုးမြှင့်ခြင်းမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

အပိုဒ်၊ ၆- ငှားရမ်းသက်တမ်းကာလတိုးခြင်းနှင့် မှတ်ပုံတင်ခြင်း

၆-၁ ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့် သက်တမ်းကာလမှာ ၂၀၁၄ ခုနှစ်မှ ၂၀၁၆ခုနှစ်ထိ (၅၀)နှစ်သက်တမ်းဖြစ်ပြီး သက်တမ်းတိုးခြင်းအား (၁၀)နှစ်(၂)ကြိမ် ထပ်မံတိုးမြှင့်ခွင့်ရှိပါသည်။

၆-၂ ဤစာချုပ်ကို စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်ထားရှိရမည်။ သတ်မှတ်ထားသည့် မှတ်ပုံတင်ကြေးကျသင့်ငွေများကို အငှားချထားခြင်းခံရသူမှ ကျခံရမည်ဖြစ်ပါသည်။

၆-၃ မှတ်ပုံတင်ကြေးပေးဆောင်ရန် အလို့ငှာ ပထမနှစ်ငှားရမ်းကာလဖြစ်သည့် (၁-၄-၂၀၁၄) မှ (၃၁-၃-၂၀၁၅) ထိ တစ်နှစ်လျှင် ကျပ် ၂၀၀၀၀၀(ကျပ်နှစ်သိန်း)နှုန်းဖြင့် သတ်မှတ်ထားသည့် မှတ်ပုံတင်ကြေးပေးသွင်းပါမည်။

**အပိုဒ်၊၇- စာချုပ်သက်တမ်းတိုးခြင်း**

၇-၁ ဤစာချုပ်သက်တမ်းမှာ စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုသည့် နေ့မှစ၍ ကနဦး(၅၀)နှစ်ဖြစ်သည်။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦးသက်တမ်းမကုန်ဆုံးမီ အနည်းဆုံး(၃)လ ကြိုတင်၍ စာဖြင့်အကြောင်းကြားတင်ပြရမည်။ ကနဦး (၅၀)နှစ် ငှားရမ်းပြီးနောက်ထပ်သက်တမ်းကာလတိုးမြှင့်ငှားရမ်းရေးအတွက် နှစ်ဘက်ညှိနှိုင်းဆောင်ရွက်ရမည်။ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

**အပိုဒ်၊၈- အကျိုးသက်ရောက်သည့်နေ့**

၈-၁ ဤသဘောတူစာချုပ်သည် စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက်တရားဝင် အတည်ပြုလက်မှတ်ရေးထိုးချုပ်ဆိုသည့်နေ့မှစတင်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

**အပိုဒ်၊၉- မြေအသုံးချမှုပရီမီယံ**

၉-၁ မြေအငှားချထားခြင်းခံရသူ သည် မြေအသုံးချမှုအတွက် ပရီမီယံကြေးအဖြစ် မြေတစ်ကေလျှင် ကျပ် ၅၀၀၀၀ (ကျပ်ငါးသောင်းတိတိ) နှုန်းဖြင့် မြေ (၅.၃၃)ကေအတွက် ငွေကျပ် (၂၆၆၅၀၀/ကျပ်နှစ်သိန်းခြောက်သောင်းခြောက်ထောင်ငါးရာတိတိ) ကို အငှားချထားသူ သို့ အောက်ဖော်ပြပါအတိုင်း ပေးသွင်းရမည်။

(က)ပထမအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၃၀% ဖြစ်သော ကျပ်(၇၉၉၅၀/ ကျပ် ခုနှစ်သောင်းကိုးထောင့်ကိုးရာ့ ငါးဆယ်တိတိ) ကို သဘောတူစာချုပ်လက်မှတ်ရေးထိုးပြီး ရက်(၃၀)အတွင်း ပေးသွင်းရမည်။

(ခ)ဒုတိယအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၃၀% ဖြစ်သော ကျပ်(၇၉၉၅၀/ ကျပ် ခုနှစ်သောင်းကိုးထောင့်ကိုးရာ့ ငါးဆယ်တိတိ) ကို သဘောတူစာချုပ်လက်မှတ်ရေးထိုးပြီး (၆)လအတွင်း ပေးသွင်းရမည်။

(ဂ)တတိယအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၄၀% ဖြစ်သော ကျပ်(၁၀၆၆၀၀/ ကျပ်တစ်သိန်းခြောက်ထောင့်ခြောက်ရာတိတိ) ကို သဘောတူစာချုပ်လက်မှတ်ရေးထိုးပြီး (၂၄)လအတွင်း ပေးသွင်းရမည်။

(ဃ)မြေအသုံးချမှုပရီမီယံကြေးပေးသွင်းရာတွင် အငှားချထားသူ၏ နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားသောငွေစာရင်းအမှတ်၊ MD-010613 သို့ ပေးသွင်းရမည်။

၉-၂ မြေအသုံးချမှုအတွက် ပရီမီယံကြေးကို သတ်မှတ်ကာလအတွင်းပေးသွင်းရမည် အကယ်၍ သတ်မှတ်ကာလထက် နောက်ကျပြီး ပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေကျပ် (၂၀၀၀)နှုန်း ပေးဆောင်ရမည်။

**အပိုဒ်၊ ၁၀- နှစ်စဉ်မြေငှားရမ်းခပေးချေခြင်း**

၁၀-၁ အငှားချထားခြင်းခံရသူ သည် အငှားချထားသည့် မြေဧရိယာ(၅ .၃၃) ဧကအတွက် တစ်ဧကလျှင် (ကျပ်၂၀၀၀၀၀/ကျပ်နှစ်သိန်း) နှုန်းဖြင့် (ကျပ် ၁၀၆၆၀၀၀/ကျပ်တစ်ဆယ့်သိန်းခြောက်သောင်းခြောက်ထောင်တိတိ) ကို အငှားချထားသူထံသို့ ဤစာချုပ်ကို နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီး ရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ ပေးသွင်းရမည်။ နောက်နှစ်များတွင်လည်း နှစ်စဉ်သက်တမ်းမစတင်မီ ရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ ပေးသွင်းရမည်။ အကယ်၍ သတ်မှတ်ကာလထက် နောက်ကျပြီး ပေးသွင်းပါက တစ်ရက်လျှင်ဒဏ်ကြေးငွေ ကျပ် (၅၀၀၀)နှုန်း ပေးဆောင်ရမည်။

၁၀-၂ မြေငှားရမ်းခကို (၅)နှစ်လျှင် တစ်ကြိမ်ပြန်လည်ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည်ချုပ်ဆိုသည့်အခါ ငှားရမ်းခနှုန်းထားကို ကာလဒေသပေါက်ဈေးနှင့် နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ လက်ရှိစာချုပ်ပါ ငှားရမ်းခ၏ ၁၀% ထက်မပိုသော နှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်မည်ဖြစ်သည်။

**အပိုဒ်၊ ၁၁- အငှားချထားသူ၏ တာဝန်ဝတ္တရားများ**

၁၁-၁ အငှားချထားသူသည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(၁) အငှားချထားသည့်မြေအတွက် မြေခွန်ကိုပေးဆောင်ရမည်။

(၂) လိုအပ်သောခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာအဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(၃) အငှားချထားခြင်းခံရသူက ဤမြေနှင့်အဆောက်အအုံငှားရမ်းလုပ်ကိုင်ခြင်းအတွက် နိုင်ငံတော်အဖွဲ့အစည်းများသို့ ပေးချေရမည့်အခွန်အခများအားလုံးကို မြန်မာကျပ်ငွေဖြင့် ပေးချေနိုင်ရန်အတွက် အငှားချထားသူက ကူညီဆောင်ရွက်ပေးရမည်။

(၄) အငှားချထားသည့် မြေတွင်အဆောက်အအုံများကို ပိုမိုတိုးတက်ကောင်းမွန်စေရေးအတွက် လိုအပ်သော တည်ဆောက်မွမ်းမံပြင်ဆင်မှုများ ပြုလုပ်နိုင်ရန် အငှားချထားခြင်းခံရသူသို့ ခွင့်ပြုပေးရမည်။

**အပိုဒ်၊၁၂- အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ**

၁၂-၁ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) အဆိုပါမြေတွင် အခန်း (၁၃၀) ပါ နိုင်ငံတကာအဆင့်မီဟိုတယ်ကို ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာငွေကျပ်သန်း ( ၄၀၀၀) ဖြင့် တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်းကို အငှားချထားခြင်းခံရသူက မိမိစရိတ်ဖြင့် တည်ဆောက်လုပ်ကိုင်ရမည်။

(ခ) အငှားချထားခြင်းခံရသူသည် နိုင်ငံတကာအဆင့်မီ ဟိုတယ်စီမံကိန်းသဘောတူစာချုပ်ကို

လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ မြေပြုပြင်ကာလ(၆)လနှင့် ဟိုတယ်တည်ဆောက်ရေးကာလ(၁၈)လ စုစုပေါင်း(၂၄)လအတွင်း ပြီးစီးအောင် တည်ဆောက်ဖွင့်လှစ်ရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားသည့် စာချုပ်ပါအဆောက်အဦအကွက်ချပုံစံ ( Site Plan )၊အဆောက်အဦးအမျိုးအစားအလိုက်၏ အရေအတွက်နှင့်ပုံစံ (Drawing) များအတိုင်းသာ ဆောက်လုပ်သွားမည်ဖြစ်ပြီး ပြောင်းလဲပြင်ဆင်ဆောက်လုပ်လိုပါက အငှားချထားသူထံ ပြန်လည်တင်ပြ၍ အတည်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်၏ အပိုဒ်(၉)နှင့်အပိုဒ်(၁၀) တွင်ဖော်ပြထားသည့် မြေအသုံးချမှုပရီမီယံ (Land Used Premium) နှင့် နှစ်စဉ်ငှားရမ်းခငွေများ ( Annual Land Lease Rental ) ကို ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသည့်ကာလများအတွင်း အငှားချထားသူသို့ မပျက်မကွက်ပေးချေရမည်။

(င) ခွင့်ပြုမိန့်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသော မြေနှင့် အဆောက်အအုံများကို စာချုပ်သက်တမ်းကာလအတွင်း ထိုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(စ) ဤသဘောတူစာချုပ်အား တည်ဆဲဥပဒေအရ တံဆိပ်ခေါင်းခွန်၊ ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်မရှိသေးလျှင် ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များထမ်းဆောင်ရမည်။

(ဆ) အငှားချထားခြင်းခံရသူအနေဖြင့် အငှားချထားစဉ်ကာလအတွင်း မြေကိုငြိမ်းချမ်းစွာနှင့် အေးဆေးစွာအသုံးပြု ခွင့်ရပြီး အငှားချထားသူ၏ သဘောအရ (သို့မဟုတ်) အငှားချထားသူ၏ ယုံကြည်အပ်နှံသူတို့၏ ပါဝင်ပတ်သက်မှု ဝင်ရောက်နှောက်ယှက်မှုမရှိစေရ။

(ဇ) နိုင်ငံတော်က ချမှတ်သောမူဝါဒများကို လိုက်နာ၍ တရားဥပဒေနှင့်ညီစွန်းသော လုပ်ငန်းများကိုလုပ်ဆောင်ခြင်းမှ ရှောင်ကြဉ်ရမည်။

(ဈ) အငှားချထားစဉ်ကာလအတွင်း မြေခွန်မှအပ လုပ်ငန်းနှင့်သက်ဆိုင်သောအခြားအခွန်အခများကို သက်ဆိုင်ရာဌာနများသို့ အချိန်မှန်မှန်ပေးဆောင်ရမည်။

(ည) ဟိုတယ်နှင့်တည်းခိုခန်းလုပ်ငန်းများ ဆောက်ရွက်ခွင့်ရရှိစေရန်အတွက် ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏ ခွင့်ပြုမိန့်လိုင်စင်ရယူရမည်။

(ဋ) အငှားချထားခြင်းခံရသူသည် နိုင်ငံတော်နှင့်သက်ဆိုင်ရာဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းကမ်းချက်များကို လိုက်နာရမည့်အပြင် လောင်းကစားခြင်းလုပ်ငန်းနှင့် မြန်မာ့ယဉ်ကျေးမှုနှင့် ဆီလျော်မှုမရှိသည့် ဖျော်ဖြေမှုလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်မှု မရှိစေရပါ။

အပိုဒ်၊ ၁၃- အာမခံထားရှိခြင်း

၁၃-၁ အငှားချထားခြင်းခံရသူ သည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများဆောက်ရွက်ရာတွင် တည်ဆောက်မည့် အဆောက်အဦအတွက် မီးအာမခံနှင့်အခြားလုပ်ငန်းလိုအပ်ချက်အရ လိုအပ်သောအာမခံများကို မြန်မာ့အာမခံဥပဒေနှင့် အညီထားရှိရမည်။

အပိုဒ်၊ ၁၄- ဓါတ်သတ္တုအရင်းအမြစ်များ

ဤသဘောတူစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းထားသည့် မြေနှင့် အဆောက်အအုံတည်ရှိရာမြေပေါ်မြေအောက်မှ ဓါတ်သတ္တု အရင်းအမြစ်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းယဉ်ကျေးမှုအနုပညာပစ္စည်းများ၊ သဘာဝသမိုင်း နှင့်သိပ္ပံ ဆိုင်ရာအရေးပါသောအရာဝတ္ထုများ၊ သဘာဝသယံဇာတများကို မမျှော်လင့်ဘဲတွေ့ရှိလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ချက်ချင်းတင်ပြရမည်။ ထိုပစ္စည်းများကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရက ပိုင်ဆိုင်စေရမည်ဖြစ်ပြီး အငှားချထားခြင်းခံရသူသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အစိုးရအဖွဲ့အစည်းများသို့ လွှဲပြောင်းတင်ပြရမည်။ ထိုအပြင်အထက်ပါပစ္စည်းများအား နိုင်ငံတော်အစိုးရ က လွတ်လပ်စွာတူးဖော်ရယူပိုင်ခွင့် ရှိစေရမည်။

အပိုဒ်၊ ၁၅- စာချုပ်ရပ်စဲခြင်း

၁၅-၁ ဤသဘောတူစာချုပ်ကို ပြုလုပ်ချုပ်ဆိုကြသူများသည် အောက်ဖော်ပြပါ အကြောင်းချင်းရာတစ်ရပ်ရပ် ဖြစ်ပေါ်လာလျှင် စာချုပ်ရပ်စဲခွင့်ရှိစေရမည်-

(၁) လုပ်ငန်းတွင် ကြီးမားစွာဆက်တိုက်အရှုံးပေါ်ပေါက်ခြင်း၊

(၂) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် ပျက်ကွက်သဖြင့် တစ်ဖက်စာချုပ်ဝင်က တရားဝင်စာဖြင့်အကြောင်းကြားသော်လည်းရက်ပေါင်း (၃၀)အတွင်းလိုက်နာခြင်း မပြုသည့်အခါ၊

(၃) ကြိုတင်မမျှော်မှန်းနိုင်သည့် အပြင်တားဆီးခြင်းမပြုနိုင်သည့် မလွန်ဆန်နိုင်သောဖြစ်ရပ်များပေါ်ပေါက်ပြီး အဆိုပါဖြစ်ရပ်များသည် တဆက်တည်း (၆)လတာကာလ ထက်ကျော်လွန်ဖြစ်ပွားခြင်း၊

(၄) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း၊

၁၅-၂ ဤသဘောတူစာချုပ်ပါ စာချုပ်ကို ရပ်စဲလိုကြောင်းနှစ်ဦးနှစ်ဖက်သဘောဆန္ဒဖြင့် တင်ပြလာလျှင်စာချုပ်ရပ်စဲခွင့် သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိမှသာလျှင် အကျိုးသက်ရောက်မှုရှိစေရမည်။

အပိုဒ်၊ ၁၆- မြေသို့ ပြန်လည်ဝင်ရောက်နိုင်ခြင်း

၁၆-၁ အငှားချထားခြင်းခံရသူက စာချုပ်ပါစည်းကမ်းချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်လျှက်သော်လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်းအငှားချထားသူက ချအပ်သောနို့တစ်စာပါ ကာလများအတွင်း မဆောင်ရွက်မှု (သို့မဟုတ်) မလိုက်နာမှုကို ပြင်ဆင်ပေးရန်ပျက်ကွက်လျှင်သော်လည်းကောင်း

အငှားချထားသူသည် အငှားစာချုပ်နှင့် သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံးပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ အငှားစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်မည်ဟူ၍ နှစ်ဦးနှစ်ဖက်သဘောတူညီကြပါသည်။ဤသို့ စာချုပ်ရပ်စဲခြင်းမြေသို့ ပြန်လည်ဝင်ရောက်နိုင်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ အငှားချထားသူက အငှားချထားခြင်းခံရသူထံမှရရှိမည့် အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

## အပိုဒ်၊ ၁၈ – အငြင်းပွားမှုများဖြေရှင်းခြင်း

၁၈-၁ ဤစာချုပ်နှင့် ပတ်သတ်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို ဥပဒေနှင့်အညီသက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

## အပိုဒ်၊ ၁၉ – ဆွေးနွေးခြင်းနှင့် စာချုပ်ပြင်ဆင်ခြင်း၊ ညှိနှိုင်းခြင်း

၁၉-၁ လုပ်ငန်းများအကောင်အထည်ဖော်ဆောက်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေများ (သို့မဟုတ်) စည်းကမ်းချက်များသည်ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်ကို နှစ်ဦးသဘောတူပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

## အပိုဒ်၊ ၂၀– လျှို့ဝှက်ချက်

၂၀-၁ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စလုံးသည် အရေးကြီးသော စာရွက်စာတမ်းများ၊ သတင်းအချက်အလက်များကို အခြားတတိယအဖွဲ့အစည်းသို့ လွှဲပြောင်းပေးခြင်းမပြုရ။ သို့ရာတွင် ကုမ္ပဏီ၏ အကျိုးစီးပွားအလိုငှာဒါရိုက်တာအဖွဲ့၏ သဘောတူဆုံးဖြတ်ချက်၊ အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် အခြားအဖွဲ့အစည်းသို့ လွှဲပြောင်းပေးနိုင်ခွင့်ရှိစေရမည်။

## အပိုဒ်၊ ၂၁– ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၂၁-၁ အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆောင်ရွက်ရမည့် နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာ ထိန်းသိမ်းကာကွယ်စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင်လေထု၊ ရေထုနှင့် မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းများအား ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သော စက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုကို မဖြစ်ပေါ်စေရန် အနံ့အငွေ့နှင့် အညစ်အကြေးစွန့်ပစ်သည့် အစိတ်အပိုင်းများကို အန္တရာယ်ကင်းရှင်းစေရေးဆိုင်ရာ လိုအပ်သောအကာအကွယ်များ၊ အစီအစဉ်များကို တည်ဆဲဥပဒေနှင့်အညီ ဆောင်ရွက်ထားရှိရမည်။

## အပိုဒ်၊ ၂၂ – စာပေးစာယူပြုလုပ်ရန်ကိစ္စ

၂၂-၁ နို့တစ်စာများ (သို့မဟုတ်) အခြားအချက်အလက်အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့်ဖြစ်စေ၊

အင်္ဂလိပ်ဘာသာဖြင့်ဖြစ်စေ ရေးသားပြီးစာတိုက်မှတ်ပုံတင်ချောစာဖြင့် ဖြစ်စေ၊ တဲလက်(စ်)ဖြင့်ဖြစ်စေ၊ ဖက်(စ်)ဖြင့် ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာဆက်သွယ်ရေးနည်းစနစ်ဖြင့် ဖြစ်စေ၊ သက်ဆိုင်ရာအဖွဲ့သို့ ဆက်သွယ်ဆောင်ရွက်နိုင်သည့် ဆက်သွယ်နိုင်ရန် လိပ်စာမှာဤစာချုပ်တွင် ဖော်ပြပါရှိသော အောက်ဖော်ပြပါ လိပ်စာအတိုင်းဖြစ်သည်-

(က) အငှားချထားသူ အတွက် -

| | | |
|---|---|---|
| (၁) | ဒေါက်တာညီညီကျော် | |
| (၂) | ရာထူး | ညွှန်ကြားရေးမှူးချုပ် |
| (၃) | လိပ်စာ | ရုံးအမှတ်(၃၉)၊ နေပြည်တော် |
| (၄) | ဖုန်းအမှတ် | ၀၆၇-၄၀၅၀၁၈ |
| (၅) | ဖက်(စ်)အမှတ် | ၀၆၇-၄၀၅၀၁၈ |
| (၆) | Email | dg.fd@mptmail.net.mm |

(ခ) အငှားချထားခြင်းခံရသူ အတွက်

| | | |
|---|---|---|
| (၁) | အမည် | ဒေါ်အေးအေးမြင့် |
| (၂) | ရာထူး | မန်နေဂျင်းဒါရိုက်တာ( Minor Myanmar Co.,Ltd ) |
| (၃) | လိပ်စာ | ဗိုလ်တစ်ထောင်ကွန်ဒို၊ဗိုလ်မြတ်ထွန်းလမ်းနှင့်မဟာဗန္ဓုလလမ်းထောင့်၊ ဗိုလ်တစ်ထောင်မြို့နယ်၊ရန်ကုန်မြို့ |
| (၄) | ဖုန်းအမှတ် | ၀၁ - ၅၀၅၁၀၁၊ ၀၉၅၁၉၉၁၅၀ |
| (၅) | Email | aye@adventuremyanmar.com |

၂၂-၂ ယခုကဲ့သို့ စာရွက်စာတမ်းများကိုပေးပို့ဆက်သွယ်သည့်အခါများတွင်အခြားတစ်ဖက်မှလက်ခံရရှိကြောင်း အထောက်အထားတစ်စုံတစ်ရာရရှိပြီးမှသာ ပေးပို့ခြင်းကို အတည်ပြုနိုင်သည်။ အကယ်၍လိပ်စာအပြောင်းအလဲရှိပါက စာဖြင့် အခြားတစ်ဖက်သို့ရေးသားအကြောင်းကြားရမည်။

**အပိုဒ်၊ ၂၃ ဘဏ်အာမခံငွေ**

၂၃-၁ အငှားချထားခြင်းခံရသူမှ လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေအဖြစ် တစ်နှစ်ငှားရမ်းခဖြစ်သော ကျပ် ၁၀၆၆၀၀၀ (ကျပ်တစ်ဆယ့်သိန်းခြောက်သောင်းခြောက်ထောင်တိတိ) အား အငှားချထားသူ၏ နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားရှိသော ငွေစာရင်းအမှတ်၊ MD-010613တွင် ဘဏ်အာမခံထားရှိပေးရမည်။ အဆိုပါဘဏ်အာမခံငွေကို ဤစာချုပ်လက်မှတ်ရေးထိုးပြီးနောက်ရက်ပေါင်း (၃၀)အတွင်း တင်သွင်းရမည်။ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်ကာလပြီးဆုံးသည့်အချိန်တွင် ဘဏ်အာမခံငွေကို ပြန်လည်ထုတ်ယူနိုင်ပါသည်။

အပိုဒ်၊ ၂၄ လုပ်ငန်းများလွှဲပြောင်းပေးအပ်ခြင်း

၂၄-၁ အငှားချထားသော ကာလအတွင်းအငှားချထားခြင်းခံရသူသည် မိမိ၏ အခွင့်အရေးများလုပ်ပိုင်ခွင့်များကို အခြားပုဂ္ဂိုလ်အဖွဲ့အစည်းများအား လွှဲပြောင်းပေးခြင်း ပြုလုပ်လိုပါက အငှားချထားသူအား ကြိုတင်အသိပေး အကြောင်းကြားရမည်။

၂၄-၂ အငှားချထားသူ၏ သဘောတူခွင့်ပြုချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရယူဆောင်ရွက်ရမည်။

အပိုဒ်-၂၅ အထွေထွေ

၂၅-၁ ဤသဘောတူစာချုပ်နှင့်အတူ ပူးတွဲဖော်ပြထားသည့်မြေပုံ၊ မြေရာဇဝင်စာရွက်စာတမ်း၊ အဆောက်အဦပုံစံများ အထောက်အထားများစသည့် နောက်ဆက်တွဲများသည် ဤစာချုပ်၏ အရေးကြီးအစိတ်အပိုင်းအဖြစ်သတ်မှတ်ရမည်။

၂၅-၂ ဤသဘောတူစာချုပ်ကို မိတ္တူနှစ်စောင်တွင် လက်မှတ်ရေးထိုးပြီးစာချုပ်အသီးသီးသည် ဥပဒေအရတူညီမျှတစွာ တရားဝင်လျှက်စာချုပ်ဝင်တစ်ဦးစီအတွက် မူရင်းတစ်စောင်အဖြစ်သတ်မှတ်ရမည်။

ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဦးစလုံး၏ တရားဝင်ကိုယ်စားလှယ်များမှ ကိုယ်တိုင်ဖတ်ရှုနားလည်ကြပြီးဖြစ်၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်၌ အထက်တွင်ဖော်ပြထားသည့် ၂၀၁၄ ခုနှစ်၊ -----လ ( ) ရက်နေ့တွင်အောက်ဖော်ပြပါ အသိသက်သေများ၏ ရှေ့မှောက်တွင် မိမိ၏ ရုံးတံဆိပ်များ အသီးသီးခပ်နှိပ်လျှက် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

"အငှားချထားသူ" (ကိုယ်စား)

ဒေါက်တာညီညီကျော်

ညွှန်ကြားရေးမှူးချုပ်

"အငှားချထားခြင်းခံရသူ" (ကိုယ်စား)

ဒေါ်အေးအေးမြင့်

အုပ်ချုပ်မှုဒါရိုက်တာ

**အသိသက်သေများ**

၁။ လက်မှတ် -

အမည် -

ရာထူး -

လိပ်စာ -

"အငှားချထားသူ" (ကိုယ်စား)

၂။ လက်မှတ် -

အမည် -

ရာထူး -

လိပ်စာ -

"အငှားချထားခြင်းခံရသူ" (ကိုယ်စား)



PERSPECTIVE VIEW OF A SUITE ROOM BUILDING



PERSPECTIVE VIEW OF A DELUXE ROOM BUILDING



PERSPECTIVE VIEW OF A DINNING HALL & BAR RESTAURANT




SITE LAYOUT PLAN

# M RESIDENCE INLAY (INGYIN GONE)

## BUILDING TYPE (1)

## FLOOR PLAN




FLOOR PLAN

M RESIDENCE INLAY (INGYIN GONE)

BUILDING TYPE (2)

GROUND FLOOR PLAN




PB (9" x 12") = 3#20mmØ Top & Bottom

GROUND FLOOR PLAN

# M RESIDENCE INLAY (INGYIN GONE)

## BUILDING TYPE (3)

## GROUND FLOOR PLAN




GROUND FLOOR PLAN

M RESIDENCE INLAY (INGYIN GONE)

BUILDING TYPE (4)

FLOOR PLAN




FLOOR PLAN

M RESIDENCE INLAY (INGYIN GONE)

BUILDING TYPE (5)

GROUND FLOOR PLAN




GROUND FLOOR PLAN

M RESIDENCE INLAY (INGYIN GONE)

BUILDING TYPE (6)

GROUND FLOOR PLAN




GROUND FLOOR PLAN

# M RESIDENCE INLAY (INGYIN GONE)

# BUILDING TYPE (7)

# PLAN




PLAN

M RESIDENCE INLAY (INGYIN GONE)

BUILDING TYPE (8)

GROUND FLOOR PLAN




GROUND FLOOR PLAN

# M RESIDENCE INLAY (INGYIN GONE)
# BUILDING TYPE (9)
# GROUND FLOOR PLAN




GROUND FLOOR PALN

| | | | |
|---|---|---|---|
| APPLICANT | DAW AYE AYE MYINT<br>Minor Myanmar Co., Ltd | | |
| PROJECT | M RESIDENCE INLAY<br>INGYIN GONE, INLAY<br>BUILDING TYPE (9)<br>GROUND FLOOR PLAN | | |
| | BLOCK NO. | | |
| | LOT NO. | | |
| SUBJECT | BUILDING TYPE (9)<br>GROUND FLOOR PLAN | | |
| SCALE | As Shown | SHEET NO. | |
| DATE | | | |

Bill of Quantity

*Location : Ingyin gone*

*Name of work : One Storeyed Steel Structure Building(For Building Type-4)*

***Material List***

| Sr.No | Description | Quantity | Unit | Rate(kyats) | Amount(kyats) | Remark |
|---|---|---|---|---|---|---|
| 1 | Cement | 1380 | Bags | | | |
| 2 | Sand | 36.62 | Sud | 7000 | 256,340 | |
| 3 | River Shingle | 57.21 | Sud | 18000 | 1,029,780 | |
| 4 | Brick | 36248 | Nos | 120 | 4,349,760 | |
| 7 | 4-angle roofing work | 1460 | Rft | 1050 | 1,533,000 | |
| 8 | Roofing screw 8mm-50mmL | 3000 | Nos | 22 | 66,000 | |
| 9 | Ridge Covering | 140 | Rft | | - | |
| 10 | Ply wood | 51 | Sht | 20000 | 1,020,000 | |
| 11 | Wood | | | | - | |
| | 3" x 1½" | 1 | Tons | 850000 | 850,000 | |
| | 3" x 2" | 1.5 | Tons | 850000 | 1,275,000 | |
| 12 | Tiling work | 402.62 | Sft | | - | |
| 13 | Parquet Work | 780.28 | Sft | 5000 | 3,901,400 | |
| 14 | Western commode | 4 | Nos | | - | |
| 15 | Basin | 4 | Nos | | - | |
| 16 | Door chowket (6"x2") | 0.7 | Tons | 1300000 | 910,000 | |
| 17 | Door Leaf | 176.19 | Sft | 5500 | 969,045 | |
| | 3½" nails | 36 | Lb | 1050 | 37,800 | |
| | 4" nails | 24 | Lb | 1050 | 25,200 | |
| 20 | Coal Tarring | 1 | Gal | | - | |
| 21 | X-met (2½" wide) | 546 | Rft | 250 | 136,500 | |
| 22 | 22mmØ Anchor Bolt & Nuts | 60 | Nos | 2000 | 120,000 | |
| 23 | 10"x 6" Base Plate (10mm thk;) | 15 | Nos | 4800 | 72,000 | |
| 24 | Red Oxide (5-Gal) | 2 | Tins | 4500 | 9,000 | |
| 25 | Caping Plate Work | | | | - | |
| | Caping Plate (10mm Thick) | | | | - | |
| | 6"x12" | 20 | Nos | 4800 | 96,000 | |
| | 5"x10" | 4 | Nos | 4000 | 16,000 | |
| | 3"x6" | 40 | Nos | 3800 | 152,000 | |
| | L-Shape Plate(10mm Thick) | | | | - | |
| | L-12½"x5 | 80 | Nos | 6500 | 520,000 | |
| | L-11½"x6" | 34 | Nos | 5400 | 183,600 | |
| | L-Shape Plate(8mm Thick) | | | | - | |
| | L-10½"x5" | 2 | Nos | 5000 | 10,000 | |
| | 25mmØ Bolt & Nut-2.5" Length | 440 | Nos | 2000 | 880,000 | |
| | 20mmØ Bolt & Nut-2.5" Length | 160 | Nos | 1800 | 288,000 | |
| | 16mmØ Bolt & Nut-2" Length | 168 | Nos | 800 | 134,400 | |
| 26 | L-5"x3" (Purlin Clip) | 292 | Nos | 750 | 219,000 | |
| 27 | Door Lock | 48 | Nos | 12000 | 576,000 | |
| 28 | Door hinge | 144 | Nos | 1200 | 172,800 | |
| | | | | | 19,808,625 | |

## *Material List*

| Sr.No | Description | Quantity | Unit | Rate(US $) | Amount( US$ ) | Remark |
|---|---|---|---|---|---|---|
| 1 | Cement | 69 | Ton | 100 | 6900 | |
| 2 | Sand | 36.62 | Sud | | | |
| 3 | River Shingle | 57.21 | Sud | | | |
| 4 | Brick | 36248 | Nos | | | |
| 5 | Rebar Work | | | | | |
| | 16mmØ | 2.07 | Tons | 432 | 894.24 | |
| | 10mmØ | 0.02 | Tons | 432 | 8.64 | |
| | 6.5mmØ | 0.133 | Ton | 492 | 65.436 | |
| 6 | H- Beam | | | | 0 | |
| | H-(200x100) | 1.07 | Tons | 600 | 642 | |
| | H-(150x75) | 1.25 | Tons | 600 | 750 | |
| | C-(100x50) (G.I Purlin) | 3520 | Rft | 1.5 | 5280 | |
| | C-(3" x 1½") | 3560 | Rft | 1 | 3560 | |
| 12 | Tiling work | 402.62 | Sft | 2 | 805.24 | |
| 13 | Parquet Work | 780.28 | Sft | | 0 | |
| 14 | Western commode | 4 | Nos | 120 | 480 | |
| 15 | Basin | 4 | Nos | 55 | 220 | |
| 16 | Door chowket (6"x2") | 0.7 | Tons | | 0 | |
| 17 | Door Leaf | 176.19 | Sft | | 0 | |
| 18 | Painting Work for 3 Coats | | | | 0 | |
| | - Emulsion | 22.53 | Gal | 20 | 450.6 | |
| | - Putty | 20.49 | Nos | 11 | 225.39 | |
| | | | | | 0 | |
| | Door chowket (6"x2") | | | | 0 | |
| | - Ready mixed paint | 0.8 | Gal | 30 | 24 | |
| | - Putty | 0.73 | Nos | 11 | 8.03 | |
| | | | | | **20320** | |

Bill of Quantity

*Location : Ingyin Gone*

*Name of work : Two Storeyed Steel Structure Building ( For Building Type-3 )*

## *Material List*

| Sr.No | Description | Quantity | Unit | Rate(kyats) | Amount(kyats) |
|---|---|---|---|---|---|
| 1 | Cement | 3836 | Bags | | |
| 2 | Sand | 123.98 | Sud | 7000 | 867,860 |
| 3 | River Shingle | 79.56 | Sud | 18000 | 1,432,080 |
| 4 | Brick | 326200 | Nos | 120 | 39,144,000 |
| 5 | Fuel | 64.62 | Gal | 4300 | 277,866 |
| 8 | 4-angle roofing work | 3753 | Rft | 1050 | 3,940,650 |
| 9 | Roofing screw 8mm-50mmL | 3800 | Nos | 22 | 83,600 |
| 10 | Ridge Covering | 202 | Rft | | - |
| 11 | Fleshing | 250 | Rft | 450 | 112,500 |
| 12 | Desk Sheet | 2569.5 | Rft | 3100 | 7,965,450 |
| 13 | Tiling work | 14979 | Sft | | - |
| 14 | Parquet Work | 7105.5 | Sft | 5000 | 35,527,500 |
| 15 | Western commode | 24 | Nos | | - |
| 16 | Basin | 24 | Nos | | - |
| 17 | Door chowket (5"x2") | 1.68 | Tons | 1300000 | 2,184,000 |
| 18 | Door Leaf | 1379 | Sft | 5500 | 7,584,500 |
| 20 | Caping Plate Work | | | | - |
| | Caping Plate (10mm Thick) | | | | - |
| | 6"x12" | 40 | Nos | 4800 | 192,000 |
| | 5"x10" | 8 | Nos | 4000 | 32,000 |
| | 3"x6" | 32 | Nos | 3800 | 121,600 |
| | | | | | - |
| | | | | | - |
| | L-Shape Plate(10mm Thick) | | | | - |
| | L-12½"x5" | 32 | Nos | 6500 | 208,000 |
| | L-11½"x6" | 68 | Nos | 5400 | 367,200 |
| | L-Shape Plate(8mm Thick) | | | | - |
| | L-10½"x5" | 4 | Nos | 5000 | 20,000 |
| | | | | | - |
| | 25mmØ Bolt & Nut-2.5" Length | 880 | Nos | 2000 | 1,760,000 |
| | 20mmØ Bolt & Nut-2.5" Length | 320 | Nos | 1800 | 576,000 |
| | 16mmØ Bolt & Nut-2" Length | 336 | Nos | 800 | 268,800 |
| 21 | L-5"x3" (Purlin Clip) | 292.00 | Nos | 750 | 219,000 |
| 22 | Door Lock | 72 | Nos | 12000 | 864,000 |
| 23 | Door hinge | 216 | Nos | 1200 | 259,200 |
| 24 | Elevator | 1 | Nos | | - |
| | | | | | 104,007,806 |

## *Material List*

| Sr.No | Description | Quantity | Unit | Rate(US$) | Amount( US$ ) |
|---|---|---|---|---|---|
| 1 | Cement | 191.8 | Tons | 100 | 19,180 |

| | | | | | | |
|---|---|---|---|---|---|---|
| 2 | Sand | 123.98 | Sud | | - | |
| 3 | River Shingle | 79.56 | Sud | | - | |
| 4 | Brick | 326200 | Nos | | - | |
| 5 | Fuel | 64.62 | Gal | | - | |
| 6 | Rebar Work | | | | - | |
| | 20mmØ | 13.37 | Tons | 432 | 5,776 | |
| | 10mmØ | 7.46 | Tons | 432 | 3,223 | |
| | 6.5mmØ | 0.74 | Tons | 492 | 364 | |
| 7 | H- Beam | | | | - | |
| | H-(250x125) | 18.48 | Tons | 600 | 11,088 | |
| | H-(200x100) | 11.36 | Tons | 600 | 6,816 | |
| | H-(150x75) | 9.58 | Tons | 600 | 5,748 | |
| | H-(100x100) | 0.24 | Tons | 600 | 144 | |
| | C-(125x65) | 2.7 | Tons | 540 | 1,458 | |
| | C-(125x50) (G.I Purlin) | 3504 | Rft | 1 | 3,504 | |
| 8 | 4-angle roofing work | 3753 | Rft | | - | |
| 9 | Roofing screw 8mm-50mmL | 3800 | Nos | | - | |
| 10 | Ridge Covering | 202 | Rft | | - | |
| 11 | Fleshing | 250 | Rft | | - | |
| 12 | Desk Sheet | 2569.5 | Rft | | - | |
| 13 | Tiling work | 14979 | Sft | 2 | 29,958 | |
| 14 | Parquet Work | 7105.5 | Sft | | - | |
| 15 | Western commode | 24 | Nos | 120 | 2,880 | |
| 16 | Basin | 24 | Nos | 55 | 1,320 | |
| 17 | Door chowket (5"x2") | 1.68 | Tons | | - | |
| 18 | Door Leaf | 1379 | Sft | | - | |
| 19 | Painting Work for 3 Coats | | | | - | |
| | Beam - Emulsion | 226.33 | Gal | 20 | 4,527 | |
| | - Putty | 205.77 | Lb | 0.15 | 31 | |
| | Ceiling - Emulsion | 75.44 | Gal | 20 | 1,509 | |
| | - Putty | 68.59 | Lb | 0.15 | 10 | |
| | Door chowket (5"x2") | | | | - | |
| | - Ready mixed paint | 6.48 | Gal | 30 | 194 | |
| | - Putty | 3.45 | Lb | 0.15 | 1 | |
| 24 | Elevator | 1 | Nos | 15000 | 15,000 | |
| | | | | | **112,730** | |

216,737,918

Bill of Quantity

*Location : Ingyin Gone*

*Name of work : Two Storeyed Steel Structure Building ( For Building Type-2 )*

***Material List***

| Sr.No | Description | Quantity | Unit | Rate(kyats) | Amount(kyats) |
|---|---|---|---|---|---|
| 1 | Cement | 2380.6 | Bags | | |
| 2 | Sand | 71.8 | Sud | 7000 | 502,600 |
| 3 | River Shingle | 64.8 | Sud | 18000 | 1,166,400 |
| 4 | Brick | 288252 | Nos | 120 | 34,590,240 |
| 5 | Fuel | 64.56 | Gal | 4300 | 277,608 |
| 6 | Rebar Work | | | | - |
| | 20mmØ | 13.37 | Tons | | - |
| | 10mmØ | 3.87 | Tons | | - |
| | 6.5mmØ | 0.72 | Tons | | - |
| 7 | H- Beam | | | | - |
| | H-(250x125) | 11.12 | Tons | | - |
| | H-(200x100) | 6.11 | Tons | | - |
| | H-(150x75) | 8.9 | Tons | | - |
| | H-(100x100) | 0.06 | Tons | | - |
| | C-(125x65) | 2.7 | Tons | | - |
| | C-(125x50) (G.I Purlin) | 3504 | Rft | | - |
| 8 | 4-angle roofing work | 3753 | Rft | 1050 | 3,940,650 |
| 9 | Roofing screw 8mm-50mmL | 3800 | Nos | 22 | 83,600 |
| 10 | Ridge Covering | 202 | Rft | | - |
| 11 | Fleshing | 250 | Rft | 600 | 150,000 |
| 12 | Desk Sheet | 1713 | Rft | 3100 | 5,310,300 |
| 13 | Tiling work | 8952 | Sft | | - |
| 14 | Parquet Work | 4737 | Sft | 5000 | 23,685,000 |
| 15 | Western commode | 16 | Nos | | - |
| 16 | Basin | 16 | Nos | | - |
| 17 | Door chowket (5"x2") | 1.12 | Tons | 1300000 | 1,456,000 |
| 18 | Door Leaf | 919 | Sft | 5500 | 5,054,500 |
| 19 | Painting Work for 3 Coats | | | | - |
| | Beam - Emulsion | 110.25 | Gal | | - |
| | - Putty | 100.24 | Lb | | - |
| | Ceiling - Emulsion | 44.69 | Gal | | - |
| | - Putty | 40.63 | Lb | | - |
| | Door chowket (5"x2") | | | | - |
| | - Ready mixed paint | 4.32 | Gal | | - |
| | - Putty | 2.3 | Lb | | - |
| | | | | | - |
| 20 | Caping Plate Work | | | | - |
| | Caping Plate (10mm Thick) | | | | - |
| | 6"x12" | 20 | Nos | 4800 | 96,000 |
| | 5"x10" | 4 | Nos | 4000 | 16,000 |
| | 3"x6" | 40 | Nos | 3800 | 152,000 |

| | | | | | |
|---|---|---|---|---|---|
| | | | | | - |
| | | | | | - |
| | L-Shape Plate(10mm Thick) | | | | - |
| | L-12½"x5" | 80 | Nos | 6500 | 520,000 |
| | L-11½"x6" | 34 | Nos | 5400 | 183,600 |
| | L-Shape Plate(8mm Thick) | | | | - |
| | L-10½"x5" | 2 | Nos | 4500 | 9,000 |
| | | | | | - |
| | 25mmØ Bolt & Nut-2.5" Length | 440 | Nos | 2000 | 880,000 |
| | 20mmØ Bolt & Nut-2.5" Length | 160 | Nos | 1800 | 288,000 |
| | 16mmØ Bolt & Nut-2" Length | 168 | Nos | 800 | 134,400 |
| 21 | L-5"x3" (Purlin Clip) | 292 | Nos | 750 | 219,000 |
| 22 | Door Lock | 48 | Nos | 12000 | 576,000 |
| 23 | Door hinge | 144 | Nos | 1200 | 172,800 |
| | | | | | 79,463,698 |

## *Material List*

| Sr.No | Description | Quantity | Unit | Rate(US $) | Amount( US$ ) |
|---|---|---|---|---|---|
| 1 | Cement | 119 | Ton | 100 | 11900 |
| 2 | Sand | 71.8 | Sud | | |
| 3 | River Shingle | 64.8 | Sud | | |
| 4 | Brick | 288252 | Nos | | |
| 5 | Fuel | 64.56 | Gal | | |
| 6 | Rebar Work | | | | |
| | 20mmØ | 13.37 | Tons | 432 | 5775.84 |
| | 10mmØ | 3.87 | Tons | 432 | 1671.84 |
| | 6.5mmØ | 0.72 | Tons | 492 | 354.24 |
| 7 | H- Beam | | | | |
| | H-(250x125) | 11.12 | Tons | 600 | 6672 |
| | H-(200x100) | 6.11 | Tons | 600 | 3666 |
| | H-(150x75) | 8.9 | Tons | 600 | 5340 |
| | H-(100x100) | 0.06 | Tons | 600 | 36 |
| | C-(125x65) | 2.7 | Tons | 540 | 1458 |
| | C-(125x50) (G.I Purlin) | 3504 | Rft | 1 | 3504 |
| 8 | 4-angle roofing work | 3753 | Rft | | 0 |
| 9 | Roofing screw 8mm-50mmL | 3800 | Nos | | 0 |
| 10 | Ridge Covering | 202 | Rft | | 0 |
| 11 | Fleshing | 250 | Rft | | 0 |
| 12 | Desk Sheet | 1713 | Rft | | 0 |
| 13 | Tiling work | 8952 | Sft | 2 | 17904 |
| 14 | Parquet Work | 4737 | Sft | | 0 |
| 15 | Western commode | 16 | Nos | 120 | 1920 |
| 16 | Basin | 16 | Nos | 55 | 880 |
| 17 | Door chowket (5"x2") | 1.12 | Tons | | 0 |
| 18 | Door Leaf | 919 | Sft | | 0 |

| | | | | | | |
|---|---|---|---|---|---|---|
| 19 | Painting Work for 3 Coats | | | | 0 | |
| | Beam - Emulsion | 110.25 | Gal | 20 | 2205 | |
| | - Putty | 100.24 | Lb | 0.15 | 15.036 | |
| | Ceiling - Emulsion | 44.69 | Gal | 30 | 1340.7 | |
| | - Putty | 40.63 | Lb | 0.15 | 6.0945 | |
| | Door chowket (5"x2") | | | | 0 | |
| | - Ready mixed paint | 4.32 | Gal | 160 | 691.2 | |
| | - Putty | 2.3 | Lb | 11 | 25.3 | |
| | Total | | | | 65,365 | |

## Bill of Quantity

*Location : Ingyin gone*

*Name of work : One Storeyed Steel Structure Building ( For Building Type-1 )*

### *Material List*

| Sr.No | Description | Quantity | Unit | Rate(kyats) | Amount(kyats) | Remark |
|---|---|---|---|---|---|---|
| 1 | Cement | 3001.11 | Bags | | - | |
| 2 | Sand | 74.85 | Sud | 7000 | 523,950 | |
| 3 | River Shingle | 131.6 | Sud | 18000 | 2,368,800 | |
| 4 | Brick | 68566 | Nos | 120 | 8,227,920 | |
| 5 | Rebar Work | | | | - | |
| | 16mmØ | 5.54 | Tons | | - | |
| | 10mmØ | 0.03 | Tons | | - | |
| | 6.5mmØ | 0.28 | Ton | | - | |
| 6 | H- Beam | | | | - | |
| | H-(200x100) | 2.44 | Tons | | - | |
| | H-(150x75) | 2.7 | Tons | | - | |
| | C-(100x50) (G.I Purlin) | 7040 | Rft | | - | |
| | C-(3" x 1½") | 7120 | Rft | | - | |
| 7 | 4-angle roofing work | 6381.8 | Sft | 1050 | 6,700,890 | |
| 8 | Roofing screw 8mm-50mmL | 6000 | Nos | 22 | 132,000 | |
| 9 | Ridge Covering | 516.38 | Rft | | - | |
| 10 | Ply wood | 54 | Sht | 20000 | 1,080,000 | |
| 11 | Wood | | | | - | |
| | 3" x 1½" | 3.22 | Tons | 850000 | 2,737,000 | |
| | 3" x 2" | 3.58 | Tons | 850000 | 3,043,000 | |
| 12 | Tiling work | 1129.85 | Sft | | - | |
| 13 | Parquet Work | 3781.9 | Sft | 5000 | 18,909,500 | |
| 14 | Western commode | 5 | Nos | | - | |
| 15 | Basin | 2 | Nos | | - | |
| 16 | Door chowket (6"x2") | 0.58 | Tons | 1300000 | 754,000 | |
| 17 | Door Leaf | 176.19 | Sft | 5500 | 969,045 | |
| 18 | Painting Work for 3 Coats | | | | - | |
| | - Emulsion | 41.84 | Gal | | - | |
| | - Putty | 33.47 | Lb | | - | |
| | | | | | - | |
| | Door chowket (6"x2") | | | | - | |
| | - Ready mixed paint | 1.5 | Gal | | - | |
| | - Putty | 1 | Lb | | - | |

| | | | | | | |
|---|---|---|---|---|---|---|
| 19 | Nails | | | | - | |
| | 3½" nails | 36 | Lb | 1080 | 38,880 | |
| | 4" nails | 24 | Lb | 1080 | 25,920 | |
| 20 | Coal Tarring | 1 | Gal | | - | |
| 21 | X-met (2½" wide) | 1092 | Rft | 250 | 273,000 | |
| 22 | 22mmØ Anchor Bolt & Nuts | 120 | Nos | 2000 | 240,000 | |
| 23 | 10"x 6" Base Plate (10mm thk;) | 40 | Nos | 4800 | 192,000 | |
| 24 | Red Oxide (5-Gal) | 4 | Tins | 5000 | 20,000 | |
| | | | | | 46,235,905 | |

Bill of Quantity

*Location : Ingyin gone*

*Name of work : One Storeyed Steel Structure Building ( For Building Type-1 )*

***Material List***

| r.No | Description | Quantity | Unit | Rate(US $) | Amount( US$) | Remark |
|---|---|---|---|---|---|---|
| 1 | Cement | 150 | ton | 100 | 15,000 | |
| 2 | Sand | 74.85 | Sud | | - | |
| 3 | River Shingle | 131.6 | Sud | | - | |
| 4 | Brick | 68566 | Nos | | - | |
| 5 | Rebar Work | | | | - | |
| | 16mmØ | 5.54 | Tons | 432 | 2,393 | |
| | 10mmØ | 0.03 | Tons | 432 | 13 | |
| | 6.5mmØ | 0.28 | Ton | 492 | 138 | |
| 6 | H- Beam | | | | - | |
| | H-(200x100) | 2.44 | Tons | 600 | 1,464 | |
| | H-(150x75) | 2.7 | Tons | 580 | 1,566 | |
| | C-(100x50) (G.I Purlin) | 7040 | Rft | 1 | 7,040 | |
| | C-(3" x 1½") | 7120 | Rft | 0.8 | 5,696 | |
| 7 | 4-angle roofing work | 6381.8 | Sft | | - | |
| 8 | Roofing screw 8mm-50mmL | 6000 | Nos | | - | |
| 9 | Ridge Covering | 516.38 | Rft | | - | |
| 10 | Ply wood | 54 | Sht | | - | |
| 11 | Wood | | | | - | |
| | 3" x 1½" | 3.22 | Tons | | - | |
| | 3" x 2" | 3.58 | Tons | | - | |
| 12 | Tiling work | 1129.85 | Sft | 2 | 2,260 | |
| 13 | Parquet Work | 3781.9 | Sft | | - | |

| | | | | | | |
|---|---|---|---|---|---|---|
| 14 | Western commode | 5 | Nos | 150 | 750 | |
| 15 | Basin | 2 | Nos | 90 | 180 | |
| 16 | Door chowket (6"x2") | 0.58 | Tons | | - | |
| 17 | Door Leaf | 176.19 | Sft | | - | |
| 18 | Painting Work for 3 Coats | | | | - | |
| | - Emulsion | 41.84 | Gal | 20 | 837 | |
| | - Putty | 33.47 | Lb | 0.15 | 5 | |
| | | | | | - | |
| | Door chowket (6"x2") | | | | - | |
| | - Ready mixed paint | 1.5 | Nos | 160 | 240 | |
| | - Putty | 1 | Nos | 11 | 11 | |
| 19 | Nails | | | | - | |
| | 3½" nails | 36 | Lb | | - | |
| | 4" nails | 24 | Lb | | - | |
| 20 | Coal Tarring | 1 | Gal | 6 | 6 | |
| 21 | X-met (2½" wide) | 1092 | Rft | | - | |
| 22 | 22mmØ Anchor Bolt & Nuts | 120 | Nos | | - | |
| 23 | 10"x 6" Base Plate (10mm thk;) | 40 | Nos | | - | |
| 24 | Red Oxide (5-Gal) | 4 | Tins | | - | |
| | | | | | **37,599** | |

